မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Thu Kha Yadanar Co., Ltd. မှ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇) လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရန် ကော်မရှင် အစည်းအဝေးသို့ တင်ပြရန် ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၀-၂-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၁၇-၂-၂၀၁၆ | ၃-၂-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၇-၂-၂၀၁၆ | ၂၉-၁-၂၀၁၆ | |
| | (ဂ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၁၇-၂-၂၀၁၆ | ၁-၂-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၇/၂၀၁၆)သို့ တင်ပြခြင်း | ၁၆-၂-၂၀၁၆ | ၁-၃-၂၀၁၆ | |
| ၄ | အဆိုပြုချက်လက်ခံကြောင်းပြန်ကြားခြင်းနှင့် အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၇/၂၀၁၆)ဆုံးဖြတ်ချက်နှင့်အညီတင်ပြရန် အကြောင်းကြားခြင်း | ၂၄-၂-၂၀၁၆ | - | |
| ၅ | ကုမ္ပဏီမှ သဘောထားမှတ်ချက်များနှင့်အညီ ပြင်ဆင်ချက်များကို ပြန်လည်တင်ပြလာခြင်း | ၁-၃-၂၀၁၆ | - | |
| ၆ | ကုမ္ပဏီမှ အဆိုပြုလွှာ အစုံ(၈)စုံ ပေးပို့ခြင်း | | ၁-၃-၂၀၁၆ | |
| ၇ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ် နှင့်နေ့ရက် | | ၈/၂၀၁၆ | |
| | စုစုပေါင်းကြာမြင့်ရက် | (၂၁) ရက် | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - Thu Kha Yadanar Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း (၇၃၃)ခန်းပါ Residence (၇) လုံးနှင့် Club House Building (၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်း |
| တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂွမ်းအုပ်စုသိုလှောင်ရုံရှိ မြေ(၄.၉၈)ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၈၄၀၀၀.၀၀ သန်း (US$ ၄၇.၂၄ သန်း အပါအဝင်) |
| အရင်းကြေကာလ | - ၅ နှစ်နှင့် ၇ လ |
| IRR | - ၁၆.၁၆ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၂.၀၄ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၀.၆၄ | - |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၄၀၀၁.၈၈ |
| ၅ | ဝင်ငွေခွန် | ၄၈၇၇.၆၂ | ၈၈၅၆.၂၆ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | ၂၉၆၆.၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ၈၄၉.၇၀ |
| ၈ | CSR (၁ %) | - | ၁၆၄.၄၉ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း ၂၀၃ ဦး အလုပ်အကိုင်ရရှိမည် ဖြစ်ပါသည်။ |
| | စုစုပေါင်း | ကျပ် ၄၈၈၀.၃၀ သန်း | ကျပ် ၁၆၈၃၉.၅၀ သန်း |
| | Cost : Benefit | ၁ : ၄ | |

**မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Thu Kha Yadanar Co., Ltd. မှ အထပ်(၁၄)ထပ်နှင့်
အခန်း(၇၃၃)ခန်းပါ Residence (၇) လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍
ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့် နှင့်စပ်လျဉ်းသည့် အဓိကအချက်များ**

| | | | |
|---|---|---|---|
| ၁ | ကုမ္ပဏီအမည်/<br>ကမကထပြုသူ | - | Thu Kha Yadanar Co., Ltd.<br>ဦးသောင်းထိုက်မင်း |
| ၂ | အဖွဲ့အစည်းပုံသဏ္ဌာန် | - | လီမိတက်ကုမ္ပဏီ(Private Company ဖြစ်ပါသည်။) |
| ၃ | လုပ်ငန်းအမျိုးအစား | - | နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇) လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်း |
| ၄ | တည်နေရာ | - | လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၂၀ အေ, ၄၆-ဘီ)၊ မြေကွက် အမှတ်(၂၉)၊ စိန်ဂွမ်းအုပ်စုသိုလှောင်ရုံဝင်း |
| ၅ | မြေအကျယ်အဝန်း | - | မြေ(၄.၉၈)ဧက |
| ၆ | မြေပိုင်ရှင် | - | ဆောက်လုပ်ရေးဝန်ကြီးဌာန |
| ၇ | နှစ်စဉ် မြေငှားရမ်းခြင်း | | US$ ၉၄၂,၅၃၂.၅ |
| ၈ | လုပ်ငန်းသက်တမ်း | - | ကနဦး နှစ်(၅၀)နှင့် သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ် |
| ၉ | တည်ဆောက်ရေးကာလ | - | ၆ နှစ် |
| ၁၀ | မတည်ငွေရင်းပမာဏ | | (က) ငွေသား — ကျပ် ၁၈၉၂.၀၁ သန်း<br>(ခ) စက်ပစ္စည်းတန်ဖိုး — ကျပ် ၄၉၈၂.၄၅ သန်း (US$ ၄.၁၅ သန်း )<br>(ဂ) အဆောက်အဦ — ကျပ် ၆၁၄၅၆.၀၀ သန်း (US$ ၃၀.၇၅ သန်း အပါအဝင်)<br>(ဃ) လုပ်ငန်းသုံးပစ္စည်းများ — ကျပ် ၂၁၇.၁၄ သန်း (US$ ၀.၁၈ သန်း)<br>(င) မြေအသုံးပြုခွင့်တန်ဖိုး — ကျပ် ၁၁၉၅၂.၀၀ သန်း (US$ ၉.၉၆ သန်း)<br>(စ) ဒီဇိုင်းတန်ဖိုး — ကျပ် ၂၄၇၂.၀၀ သန်း (US$ ၂.၀၆ သန်း)<br>(ဆ) မော်တော်ယာဉ် — ကျပ် ၁၆၄.၄၀ သန်း (US$ ၀.၁၄ သန်း)<br>(ဇ) Land Scaping — ကျပ် ၈၆၄.၄၀ သန်း<br>**စုစုပေါင်းမတည်ငွေရင်း — ကျပ် ၈၄၀၀၀.၀၀ သန်း (US$ ၄၇.၂၄ သန်း အပါအဝင်)** |
| ၁၁ | ဝန်ထမ်းအင်အား<br>ပြည်တွင်း | -<br>- | **၃၇ ဦး**<br>၃၇ ဦး (တစ်လလျှင် ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံး လစာမှာ ကျပ် ၅၅၀,၀၀၀ ဖြစ်ပါသည်။) |

<table>
<tr><td>၁၂</td><td>ဝင်ငွေ ရရှိမှု အခြေအနေ<br>( ၆ နှစ် မြောက်တွင် ရရှိနိုင်မည့် အခြေအနေ)</td><td>-</td><td>
<table>
<tr><th>Particulars</th><th>Gross Floor Area (sq.m)</th><th>Net Floor Area (sq.m)</th><th>Lease Rate (Kyat/ sq.m)</th></tr>
<tr><td>Phase I</td><td></td><td></td><td></td></tr>
<tr><td>Residence (၂ လုံး)</td><td>၂၃၅၉၃.၇၈</td><td>၁၅၃၃၅.၉၆</td><td>၂၅၀,၀၀၀</td></tr>
<tr><td>Phase II</td><td></td><td></td><td></td></tr>
<tr><td>Residence (၅)လုံး</td><td>၆၆၈၂၇.၇၄</td><td>၄၃၄၃၈.၀၃</td><td>၂၈၀,၀၀၀</td></tr>
</table>
</td></tr>
<tr><td>၁၃</td><td>ဝင်ငွေ<br>အသုံးစရိတ်<br>အသားတင်အမြတ်</td><td></td><td>ကျပ် ၁၈၈၀၇.၆၈ သန်း<br>ကျပ် ၁၀၁၂၇.၉၉ သန်း<br>ကျပ် ၈၆၇၉.၆၉ သန်း</td></tr>
<tr><td>၁၄</td><td>နိုင်ငံတော်မှရရှိမည့်<br>အကျိုးအမြတ်<br>(၆နှစ်မြောက်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန်</td><td><br><br><br>-<br>-</td><td><br><br><br>ကျပ် ၂၈၉၃.၂၃ သန်း<br>ကျပ် ၉၄၀.၃၈ သန်း</td></tr>
<tr><td>၁၅</td><td>အရင်းကြေကာလ</td><td>-</td><td>၅ နှစ် နှင့် ၇ လ</td></tr>
<tr><td>၁၆</td><td>အရင်းအနှီးအပေါ်အကျိုး<br>အမြတ်ပြန်ပေါ်နှုန်း (IRR)</td><td>-</td><td>၁၆.၁၆ %</td></tr>
<tr><td>၁၇</td><td>လျှပ်စစ်ဓါတ်အားသုံးစွဲမှု</td><td>-</td><td>ကိုယ်ပိုင် Generator 1000/275KVA ဖြင့် ထည့်သွင်း အသုံးပြုရန် စီစဥ်ထားကြောင်း တင်ပြထားပါသည်။</td></tr>
<tr><td>၁၈</td><td>ငွေကြေးအထောက်<br>အထား</td><td></td><td>ကျပ်ငွေ အထောက်အထားအဖြစ် Thu Kha Yadanar Co., Ltd. အမည်ဖြင့် KBZ ဘဏ်၌ (၉-၂-၂၀၁၆)နေ့စွဲရှိ ငွေလက်ကျန် ကျပ် ၂၁၂,၉၄၂,၄၅၀ ရှိကြောင်း တင်ပြထားပါသည်။</td></tr>
<tr><td>၁၉</td><td>စိစစ်တင်ပြချက်</td><td></td><td>(က) KBZ Bank မှ ချေးငွေ ကျပ် ၂၅.၀၀ သန်းအား ချေးယူမည် ဖြစ်ပါသည်။<br>(ခ) Car Parking တွင် မော်တော်ယာဥ် စီးရေ (၈၈၀)စီး ရပ်နားနိုင်မည် ဖြစ်ပါသည်။<br>(ဂ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ စိစစ်ချက်များ ပြန်ကြားထားပါသည်။<br>(ဃ) ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ တစ်ဖက်ပါ အတိုင်း သဘောထား မှတ်ချက် ပြန်ကြားထားပါသည်-</td></tr>
</table>

| | | | |
|---|---|---|---|
| | | | (၁) အဆိုပြုနေရာသည် ရွှေတိဂုံဘုရား ကန့်သတ်ဇရိယာ အတွင်း၌ တည်ရှိပြီး ၂ ထပ် Club House Building နှင့် Basement (၂)ထပ် + ၁၄ ထပ် Residence အဆောက်အဦ (၇)လုံး ပါရှိရာတွင် အဆိုပါ စီမံကိန်းဝင်း အတွင်း၌ ၂၀ ပေ အကျယ် မီးသတ်ကားပတ်လမ်းထားရှိခြင်း၊ Basement 1 , 2 ၌ ကားပါကင် ဧရိယာ၊ Ground Floor နှင့် Typical Floor များတွင် Residence Units -၇၃၃ ပါရှိပြီး အဆောက်အဦ အမြင့် ပင်လယ်ရေ မျက်နှာပြင်အထက် အမြင့် ၁၉၀ ပေ ထက် ကျော်လွန်မှု မရှိပါကြောင်း၊ အထပ်မြင့် အဆောက်အအုံ ဆောက်လုပ်မှုဆိုင်ရာ စံချိန် စံညွှန်း စစ်ဆေးရေးနှင့် ကြီးကြပ်ရေးအဖွဲ့ (HIC)၏ လုပ်ထုံး လုပ်နည်းများအရ စိစစ်ရာတွင် လိုအပ်သော ကားစီးရေမှာ ၈၈၀ စီးဖြစ်ပြီး ကားစီးရေ လုံလောက်မှု ရှိပြီး FAR (၄.၈၁)၊ BCR (၀.၅၅) ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါကြောင်း၊<br>(၂) ၁၄ ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံးနှင့် Club House Building ၁ လုံးသည် ရွှေတိဂုံစေတီတော် ကန့်သတ်ဇရိယာအတွင်း၌ တည်ရှိပြီး သတ်မှတ် ပင်လယ် ရေ မျက်နှာပြင်အထက် အမြင့် ပေ ၁၉၀ ထက် ကျော်လွန်မှု မရှိခြင်း၊ ကားစီးရေ ကိုက်ညီမှု ရှိခြင်း၊ သတ်မှတ် Ratio များ ကိုက်ညီမှု ရှိပါ၍ ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီ၏ လုပ်ထုံးလုပ်နည်းများ နှင့် ကိုက်ညီမှု ရှိပါ ကြောင်း၊ |

ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၄/-၁၅၃၄ / ၂၀၁၆( ၃၂၃ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ် လ ၁ ရက်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ **Thu Kha Yadanar Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံရှိ မြေ(၄.၉၈)ဧက တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံးနှင့် Club House Building (၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း ကိစ္စ**

၁။ Thu Kha Yadanar Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၂၀ အေ, ၄၆-ဘီ)၊ မြေကွက်အမှတ်(၂၉)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံဝင်းအတွင်းရှိ မြေ(၄.၉၈)ဧက တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇) လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးသောင်းထိုက်မင်းမှ အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၆ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၇/၂၀၁၆) ကြိမ်မြောက် အစည်းအဝေး သို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၂။ အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ဆောက်လုပ်ရေးဝန်ကြီးဌာနနှင့် Thu Kha Yadanar Co., Ltd. တို့ အကြား ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထား မှတ်ချက်နှင့်အညီ B.O.T စနစ်ဖြင့် ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း) အား တင်ပြထားပါသည်။

၃။ ဆောက်လုပ်ရေးဝန်ကြီးဌာနနှင့် Thu Kha Yadanar Co., Ltd. တို့အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်းစာချုပ်ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) မြေငှားရမ်းခြင်း သက်တမ်းကာလမှာ စာချုပ်လက်မှတ်ထိုးသည့်နေ့မှ ကနဦး နှစ်(၅၀)နှင့် သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ် ဖြစ်သည်။

(ခ) ငှားရမ်းခနှုန်းထားမှာ တစ်စတုရန်းမီတာလျှင် US$ ၁၅ နှုန်းဖြင့် စုစုပေါင်း ကြမ်းပြင်ဧရိယာ၏ ၆၅ % ကို ပြန်လည်ငှားရမ်းနိုင်သော ဧရိယာအဖြစ် သတ်မှတ်၍ ပေးချေရန်ဖြစ်ပါသည်။

(ဂ) မြေအသုံးချမှုပရီမီယံကြေးအဖြစ် တစ်ဧကလျှင် US$ ၂.၀၀ သန်းနှုန်းဖြင့် မြေ(၄.၉၈)ဧကအတွက် US$ ၉.၉၆ သန်းအား တစ်ဖက်ပါအတိုင်း ၄ ကြိမ်ခွဲ၍ ပေးသွင်းရမည် ဖြစ်သည်-

(၁) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား စာချုပ်လက်မှတ်ရေးထိုးပြီး ၁၈ လ အတွင်း

(၂) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား ပထမအရစ် ပေးချေသည့်နေ့မှ ၈ လ အတွင်း

(၃) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား ပထမအရစ် ပေးချေသည့်နေ့မှ ၁၆ လ အတွင်း

(၄) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား ပထမအရစ် ပေးချေသည့်နေ့မှ ၂၄ လ အတွင်း

၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်းစာချုပ်အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ စာချုပ်ပါ အချက်များအား ပြင်ဆင်ချုပ်ဆိုထားခြင်း ဖြစ်ကြောင်း ဆောက်လုပ်ရေးဝန်ကြီးဌာနမှ (၁၁-၂-၂၀၁၆)ရက်စွဲပါ စာဖြင့် တင်ပြထားပါသည်။

၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံရှိ မြေ(၄.၉၈)ဧက မြေနေရာ နှင့်စပ်လျဉ်း၍ ပြည်ထဲရေးဝန်ကြီးဌာနမှ အမိန့်ကြော်ငြာစာအမှတ် (၂၇၀/၂၀၁၆) (၂-၂-၂၀၁၆)ဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာနသို့ အခမဲ့ လွှဲပြောင်းပေးပြီးဖြစ်ကြောင်း တင်ပြထားပါသည်။

၆။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ကနဦး နှစ်(၅၀)နှင့် သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ်ဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၆)နှစ် ဖြစ်ပါသည်။

၇။ လုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၄၇.၂၄ သန်း အပါအဝင် စုစုပေါင်း ကျပ် ၈၄၀၀၀.၀၀ သန်း ဖြစ်ပါသည်။ စက်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ဒီဇိုင်းတန်ဖိုးများ ဖြစ်သည့် အမေရိကန်ဒေါ်လာ ၄၇.၂၄ သန်းဖိုးကို ပြည်ပမှ ဝယ်ယူမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | |
|---|---|
| (က) ငွေသား | ကျပ် ၁၈၉၂.၀၁ သန်း |
| (ခ) စက်ပစ္စည်းတန်ဖိုး | ကျပ် ၄၉၈၂.၄၅ သန်း (US$ ၄.၁၅ သန်း ) |
| (ဂ) အဆောက်အဦ | ကျပ် ၆၁၄၅၆.၀၀ သန်း (US$ ၃၀.၇၅ သန်း အပါအဝင်) |
| (ဃ) လုပ်ငန်းသုံးပစ္စည်းများ | ကျပ် ၂၁၇.၁၄ သန်း (US$ ၀.၁၈ သန်း) |
| (င) မြေအသုံးပြုခွင့်တန်ဖိုး | ကျပ် ၁၁၉၅၂.၀၀ သန်း (US$ ၉.၉၆ သန်း) |
| (စ) ဒီဇိုင်းတန်ဖိုး | ကျပ် ၂၄၇၂.၀၀ သန်း (US$ ၂.၀၆ သန်း) |
| (ဆ) မော်တော်ယာဉ် | ကျပ် ၁၆၄.၄၀ သန်း (US$ ၀.၁၄ သန်း) |
| (ဇ) Land Scaping | ကျပ် ၈၆၄.၄၀ သန်း |
| **စုစုပေါင်းမတည်ငွေရင်း** | **ကျပ် ၈၄၀၀၀.၀၀ သန်း (US$ ၄၇.၂၄ သန်း အပါအဝင်)** |

၈။ လုပ်ငန်းဆောင်ရွက်ရန် တည်ဆောက်ရေးကာလတွင် ပြည်တွင်းမှ ဝန်ထမ်း(၃၇)ဦး နှင့် လုပ်ငန်းလည်ပတ်သော ကာလတွင် ဝန်ထမ်း(၃၁)ဦး ခန့်ထားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်းဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၅၅၀,၀၀၀ ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်း၏ (၆)နှစ်မြောက်တွင် ဝန်ဆောင်မှု ပေးနိုင်မည့် အခြေအနေမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| Particulars | Gross Floor Area (sq.m) | Net Floor Area (sq.m) | Lease Rate (Kyat/ sq.m) |
|---|---|---|---|
| **Phase I** | | | |
| Residence (၂ လုံး) | ၂၃၅၉၃.၇၈ | ၁၅၃၃၅.၉၆ | ၂၅၀,၀၀၀ |
| **Phase II** | | | |
| Residence (၅ လုံး) | ၆၆၈၂၇.၇၄ | ၄၃၄၃၈.၀၃ | ၂၈၀,၀၀၀ |

၁၀။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **စဉ်** | **အကြောင်းအရာ** | **ကျပ်(သန်း)** |
|---|---|---|
| (က) | ဝင်ငွေ | ၁၈၈၀၇.၆၈ |
| (ခ) | အသုံးစရိတ် | ၁၀၀၂၇.၉၉ |
| (ဂ) | အသားတင်အမြတ် | ၈၆၇၉.၆၉ |

၁၁။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ် လုပ်ငန်းခွန် ကျပ် ၉၄၀.၃၈ သန်း နှင့် ဝင်ငွေခွန် ကျပ် ၂၈၉၃.၂၃ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၅)နှစ်(၇)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၁၆.၁၆ ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၂။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထား များတောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ (နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုမည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြ စီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊

(၂) အဆိုပြုလုပ်ငန်း လုပ်ကိုင်ပါက တည်ဆောက်ဆဲကာလတွင် ပြည်ပလုပ်သား အင်အား(၁၅၀)ဦး၊ ပြည်တွင်းလုပ်သားအင်အား (၁၅၀၀)ဦး၊ စုစုပေါင်း (၁၆၅၀) ဦး နှင့် တည်ဆောက်ပြီး ကာလတွင် ပြည်ပလုပ်သား အင်အား (၃၀)ဦး ပြည်တွင်း လုပ်သားအင်အား(၃၅၀)ဦး၊ ၊ စုစုပေါင်း (၃၈၀)ဦး အလုပ်အကိုင် ရရှိမည်ဖြစ် သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါကြောင်း၊

(၃) အဆိုပြုလုပ်ငန်း လုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံရှိ မြေ(၄.၉၈)ဧက (20153.362 sqm)အား ( 1 sqft=1.4$, 1 sqm=15$)နှုန်းဖြင့် ကနဦး နှစ် (၅၀) နှင့် သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ် ငှားရမ်း ဆောင် ရွက်ခြင်းအပေါ် ဒေသခံ များက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း၊

(၄) လုပ်ငန်း ဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်း၊

(၅) အထက်ဖော်ပြပါအချက်များကြောင့် (၁၈-၂-၂၀၁၆) ရက်နေ့တွင် ကျင်းပ ပြုလုပ် သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၈/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၁၁၆)အရ Thu Kha Yadanar Co., Ltd. ၏ ရင်းနှီးမြှုပ်နှံ မှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါ ကြောင်း၊

## (ခ) ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)

(၁) အဆိုပြုလုပ်ငန်းများ ဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက် ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန် နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှု (CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%)အား အသုံးပြုခြင်း တို့ အပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည်ဖော် ဆောင် ရွက်ရန်။

(၂) ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး (သို့မဟုတ်)ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA )အား ဆောင်ရွက်ပြီး အစီရင်ခံစာ ပြုစုရေးသား တင်ပြရန်။

(ဂ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှု ပျက်စီးမှု မဖြစ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက် မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ရေးဆွဲ တင်ပြရန်နှင့် စီမံချက်တွင်ပါရှိသည့်အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

**( ကုမ္ပဏီမှ အထက်ပါ သဘောထား ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)နှင့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အစီရင်ခံစာတို့အား Myanmar Statistical Association မှ ပညာရှင်များနှင့် ရေးဆွဲလျက်ရှိပြီး ပြီးစီးပါက အစီရင်ခံစာ တင်ပြမည်ဖြစ်ပါသည်။)**

(ဂ) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း။** (နောက်ဆက်တွဲ-ဂ)

(၁) မီးသတ်ဦးစီးဌာနမှ ချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်း လိုက်နာ ဆောင်ရွက်ရန်။

(၂) အဆောက်အဦအပိုင်းတွင် ပြည်ပမှတင်သွင်းမည့် အောက်ဖော်ပြပါ ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံပါကြောင်း-

| စဉ် | ပစ္စည်းအမျိုးအမည် နှင့် ရေတွက်ပုံ | MIC စာအုပ်ပါ အရေအတွက် | BQ တွင် ပါဝင်သော အရေအတွက် | ထောက်ခံ တင်ပြသော အရေအတွက် |
|---|---|---|---|---|
| (က) | Cement(တန်) | ၂၂၅၀၀ | ၂၂၅၀၀ | ၂၀၃၃၀ |
| (ခ) | Rebar(တန်) | ၁၉၆၀၀ | ၁၉၆၀၀ | ၁၃၅၁၉ |
| (ဂ) | U-bar(တန်) | ၄၆ | ၄၆ | ၂၈ |
| (ဃ) | Structural Steel(တန်) | ၁၈၄ | ၁၈၄ | ၁၀၄ |
| (င) | Steel Plate (တန်) | ၅၃.၂ | ၅၃.၂ | ၄၀ |
| (စ) | Prestressed Steel Plate (တန်) | ၆၆.၅ | ၆၆.၅ | ၅၁ |
| (ဆ) | Painting (လီတာ) | ၆၃၈၀ | ၆၃၈၀ | ၆၃၈၀ |
| (ဇ) | Steel Wire (တန်) | ၃၅.၇ | ၃၅.၇ | ၃၀ |
| (ဈ) | Anti-corrosive Paint (လီတာ) | ၁၂၁၈ | ၁၂၁၈ | ၅၀၅ |

| စဥ် | ပစ္စည်းအမျိုးအမည် နှင့် ရေတွက်ပုံ | MIC စာအုပ်ပါ အရေအတွက် | BQ တွင် ပါဝင်သော အရေအတွက် | ထောက်ခံ တင်ပြသော အရေအတွက် |
|---|---|---|---|---|
| (ည) | Antirust Paint (လီတာ) | ၁၂၇၆ | ၁၂၇၆ | ၅၀၅ |
| (ဍ) | Dump Truck(စီးရေ) | ၁၂ | ၁၂ | ၁၀ |
| (ဋ) | Bulldozer(2 Tons) | ၂ | ၂ | ၁ |

**( မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ သဘောထား မှတ်ချက် နှင့်အညီ ပစ္စည်းစာရင်းများအား ပြင်ဆင်ပြီး တင်ပြခြင်း ဖြစ်ပါကြောင်း ကုမ္ပဏီမှ ရှင်းလင်းတင်ပြထားပါသည်။)**

၁၃။ ကျပ်ငွေ အထောက်အထားအဖြစ် Thu Kha Yadanar Co., Ltd. အမည်ဖြင့် KBZ ဘဏ်၌ (၉-၂-၂၀၁၆)နေ့စွဲရှိ ငွေလက်ကျန် ကျပ် ၂၁၂,၉၄၂,၄၅၀ ရှိကြောင်းတင်ပြထားပါသည်။

၁၄။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ ရေဆိုးစွန့်ပစ်မှုအစီအစဥ်များအား ကမ္ဘာ့ကျန်းမာရေး အဖွဲ့အစည်းမှ သတ်မှတ်ပြဌာန်းထားသော ခေတ်မီနည်းစနစ်များ သုံးစွဲ၍ ရေဆိုးများကို ပတ်ဝန်းကျင် နှင့် အများပြည်သူများ အန္တရာယ် မပြုနိုင်အောင် စနစ်တကျ ဆောင်ရွက်ထားရှိမည် ဖြစ်ကြောင်း၊ မီးဘေးကြိုတင်ကာကွယ်မှု အစီအစဥ်ဖြင့် မီးသတ်ဦးစီးဌာနမှ သတ်မှတ်ထားသော စည်းမျဥ်းစည်းကမ်းများတိုင်း လိုက်နာ ဆောင်ရွက်သွား မည် ဖြစ်ကြောင်း နှင့် ဝန်ထမ်းများ၏ ဝင်ငွေခွန်အား ကုမ္ပဏီမှ ပေးဆောင်မည် ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရေးအတွက် ဆောင်ရွက်ထားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၅။ ကုမ္ပဏီမှ လုပ်ငန်းဆောင်ရွက်ရာတွင် သုံးစွဲမည့် လျှပ်စစ်ဓါတ်အားမှာ ၄၇၇၀၀၀၀ KW/year ဖြစ်ပြီး လျှပ်စစ်ဓါတ်အားပေးရေးအဖွဲ့မှ ဓါတ်အားမရရှိပါက ကိုယ်ပိုင် Generator1000/275KVA ဖြင့် ထည့်သွင်း အသုံးပြုရန် စီစဥ်ထားကြောင်း နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်မှု အစီအစဥ်နှင့် Corporate Social Responsibility အဖြစ် လုပ်ငန်း၏ နှစ်စဥ် အသားတင်အမြတ်ငွေ၏ ၂ % ကို လူမှုရေးလုပ်ငန်းများတွင် သုံးစွဲဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၆။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည)အရ အခွန်အကောက် ကင်းလွတ်ခွင့်( သို့မဟုတ်) သက်သာခွင့်များကို ကော်မရှင်သို့ တင်ပြလျှောက်ထားလာလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

၁၇။ **စိစစ်တင်ပြချက်**

(က) KBZ Bank မှ ချေးငွေ ကျပ် ၂၅.၀၀ သန်းအား ချေးယူမည် ဖြစ်ပါသည်။

(ခ) Car Parking တွင် မော်တော်ယာဥ် စီးရေ (၈၈၀)စီး ရပ်နားနိုင်မည် ဖြစ်ပါသည်။

(ဂ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ တစ်ဖက်ပါအတိုင်း အကြံပြုချက် ပြန်ကြားထားပါသည်-

(၁) အဝင်လမ်းအဝ 8.5 m သာရှိပြီး ကားအဝင်အထွက် ကြပ်နိုင်သဖြင့် အဝင်ဝကို ကျယ်နိုင်သမျှ ကျယ်၍ စဥ်းစားပေးရန်။

(၂) Basement Car Parking Area သို့ ရည်ရွယ်ထားသော ကားအစီးရေ (၈၀၀)ဝင်ရန်အတွက် ဝင်ပေါက်ကို အနည်းဆုံး ၂ ပေါက် ထားရှိပေးရန်။

(၃) နေထိုင်သူများအတွက် သာရေးနာရေး ကျင်းပနိုင်ရန် ခန်းမ(Community Hall) တစ်ခု ထည့်သွင်း တည်ဆောက်ပေးရန်။

(၄) School Bus System အတွက် Drop Out Area နှင့် Bus Turning Area လုံလောက်စွာ ထားပေးရန်။

(၅) မီးဘေးကာကွယ်ရန်အတွက် အလိုအလျောက် မီးငြိမ်းသတ်စနစ်ဖြစ်သည့် Spinkler System ကို ထည့်သွင်းပေးရန်။

(ဃ) ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ အောက်ပါအတိုင်း သဘောထား မှတ်ချက် ပြန်ကြားထားပါသည်-

(၁) အဆိုပြုနေရာသည် ရွှေတိဂုံဘုရား ကန့်သတ်ဧရိယာအတွင်း၌ တည်ရှိပြီး ၂ ထပ် Club House Building နှင့် Basement (၂)ထပ် + ၁၄ ထပ် Residence အဆောက်အဦ (၇)လုံး ပါရှိရာတွင် အဆိုပါ စီမံကိန်းဝင်းအတွင်း၌ ၂၀ ပေ အကျယ် မီးသတ်ကား ပတ်လမ်း ထားရှိခြင်း၊ Basement 1 , 2 ၌ ကားပါကင် ဧရိယာ၊ Ground Floor နှင့် Typical Floor များတွင် Residence Units -၇၃၃ ပါရှိပြီး အဆောက်အဦ အမြင့် ပင်လယ်ရေမျက်နှာပြင်အထက် အမြင့် ၁၉၀ ပေ ထက် ကျော်လွန်မှု မရှိပါကြောင်း၊ အထပ်မြင့် အဆောက်အအုံ ဆောက်လုပ်မှုဆိုင်ရာ စံချိန်စံညွှန်း စစ်ဆေးရေးနှင့် ကြီးကြပ်ရေးအဖွဲ့(HIC)၏ လုပ်ထုံးလုပ်နည်းများအရ စိစစ်ရာတွင် လိုအပ်သော ကားစီးရေမှာ ၈၈၀ စီးဖြစ်ပြီး ကားစီးရေ လုံလောက်မှု ရှိပြီး FAR (၄.၈၁)၊ BCR (၀.၅၅) ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါကြောင်း၊

(၂) ၁၄ ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံးနှင့် Club House Building ၁ လုံးသည် ရွှေတိဂုံစေတီတော် ကန့်သတ်ဧရိယာအတွင်း၌ တည်ရှိပြီး သတ်မှတ် ပင်လယ်ရေ မျက်နှာပြင်အထက် အမြင့် ပေ ၁၉၀ ထက် ကျော်လွန်မှု မရှိခြင်း၊ ကားစီးရေ ကိုက်ညီမှု ရှိခြင်း၊ သတ်မှတ် Ratio များ ကိုက်ညီမှု ရှိပါ၍ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ လုပ်ထုံးလုပ်နည်းများ နှင့် ကိုက်ညီမှု ရှိပါကြောင်း၊

**ဆုံးဖြတ်ရန်အချက်**

၁၈။ သို့ဖြစ်ပါ၍ Thu Kha Yadanar Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂွန်းအုပ်စု သိုလှောင်ရုံရှိ မြေ(၄.၉၈)ဧက တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄) ထပ် နှင့် အခန်း(၇၃၃)ခန်းပါ

Residence (၇) လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ မြေ(၄.၉၈)ဧက ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းအား လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

IDG 161
22/2



နောက်ဆက်တွဲ(က)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

DIG-344
19/2

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၇. ၂. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက - ၄/ မ-၁၅၃၄/၂၀၁၆(၂၂၇)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့နယ်ရှိ နိုင်ငံတော်ကာကွယ်ရေးတက္ကသိုလ်(ဝင်းဟောင်း)နေရာနှင့် အမှတ်(၁)မော်တော်ယာဉ်တပ်ရင်း(နေရာဟောင်း)ရှိ စီမံကိန်းများအတွက် အစားထိုးမြေနေရာရရှိထားပြီး ဖြစ်သော Thu Kha Yadanar Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂွမ်းအုပ်စု သိုလှောင်ရုံရှိ မြေ(၄. ၉၈)ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံးနှင့် Club House Building (၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်းအား လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက တည်ဆောက်ဆဲကာလတွင် ပြည်ပလုပ်သားအင်အား(၁၅၀)ဦး၊ ပြည်တွင်းလုပ်သားအင်အား(၁၅၀၀)ဦး၊ စုစုပေါင်း(၁၆၅၀)ဦးနှင့် တည်ဆောက်ပြီးကာလတွင် ပြည်ပလုပ်သားအင်အား(၃၀)ဦး၊ ပြည်တွင်းလုပ်သားအင်အား(၃၅၀)ဦး၊ စုစုပေါင်း(၃၈၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂွမ်းအုပ်စု သိုလှောင်ရုံရှိ မြေ(၄. ၉၈)ဧက (20153.362 sqm)အား (1sqft=1.4$, 1sqm= 15$)နှုန်းဖြင့် ကနဦးနှစ်(၅၀)နှင့် (၁၀)နှစ် (၂)ကြိမ် သက်တမ်းတိုးငှားရမ်း ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များအပြင် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှလည်း ရွှေတိဂုံစေတီတော် ကန့်သတ်ဇရိယာအတွင်း၌တည်ရှိပြီး သတ်မှတ်ပင်လယ်ရေမျက်နှာပြင်အထက် အမြင့် ၁၉၀'-၀" ထက်ကျော်လွန်မှုမရှိခြင်း၊ ကားစီးရေကိုက်ညီမှုရှိခြင်း၊ သတ်မှတ် Ratio များ ကိုက်ညီမှုရှိပါ၍ လုပ်ထုံးလုပ်နည်းများနှင့်ကိုက်ညီမှုရှိပါကြောင်းသဘောထားမှတ်ချက် ပြန်ကြားလာပါသောကြောင့် (၁၈. ၂. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၈/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၁၁၇)အရ Thu Kha Yadanar Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

အတွင်းရေးမှူး၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လမ်းမတော်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Thu Kha Yadanar Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

နောက်ဆက်တွဲ(ခ)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/MIC(OSS)/ECD/၀၁(၅၉/၁၆)
ရက်   စွဲ ၊ ၂၀၁၆ခုနှစ် ဖေဖော်ဝါရီလ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Thu Kha Yadanar Co.,Ltd.မှ နိုင်ငံတကာအဆင့်မီအထပ်(၁၄)ထပ်နှင့်အခန်း(၇၃၃)ခန်းပါ Residence(၇)လုံးနှင့် Club House Building (၁)လုံးတည်ဆောက်၍ ငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၄/ မ-၁၅၃၄/ ၂၀၁၆(၂၂၆)

၁။ Thu Kha Yadanar Co.,Ltd.မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂျွန်းအုပ်စုသိုလှောင်ရုံရှိမြေ(၄.၉၈)ဧကတွင် BOT စနစ်ဖြင့် နိုင်ငံတကာအဆင့်မီအထပ်(၁၄)ထပ်နှင့်အခန်း(၇၃၃)ခန်းပါ Residence(၇)လုံးနှင့် Club House Building (၁)လုံးတည်ဆောက်၍ ငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်းအားဆောင်ရွက် ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင်ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅၀)နှင့်(၁၀)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၆)နှစ်ဖြစ်ကြောင်း၊ မီးဘေးကြိုတင်ကာကွယ်မှုအစီအစဉ်၊ ဝန်ထမ်းသက်သာချောင်ချိရေးနှင့်သာယာပျော်ရွှင်ရေးအစီအမံများကိုလည်းထည့်သွင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏(၂%)ကိုလူမှုရေးဆိုင်ရာတာဝန်ခံပူးပေါင်းဆောင်ရွက်မှု( Corporate Social Responsibility-CSR )လုပ်ငန်းများတွင် ထည့်သွင်းအသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ဆောက်လုပ်ရေးလုပ်ငန်းမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများ၊ မြေစာများနှင့် အခြားစွန့်ပစ်ပစ္စည်းများအား ပတ်ဝန်းကျင်

မထိခိုက်စေရန်စနစ်တကျ စွန့်ပစ်သွားမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ် ညမ်းမှုမရှိစေရန် ဝန်ထမ်းအင်အားအပြည့်ဖြင့် သန့်ရှင်းရေးဆောင်ရွက်ခြင်း၊ အမှိုက်ပုံများထားရှိခြင်း၊ ရေနုတ်မြောင်းများအား ရေစီးရေလာကောင်းမွန်အောင်ဆောင်ရွက်ခြင်းတို့အား ပြုလုပ်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ Thu Kha Yadanar Co.,Ltd.မှ အဆောက်အဦများ ဆောက်လုပ်ခြင်းလုပ်ငန်းများကြောင့် မြေသားပြုပြင်ဖော်ထုတ်ရာမှထွက်ရှိလာမည့် အမှုန်အမွှားများ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊ လုပ်ငန်းသုံးယာဉ်ယန္တရားများ၏ ဆူညံသံကြောင့် အသံညစ်ညမ်းခြင်း ၊ ယာဉ်ယန္တရားများမှထွက်ရှိလာမည့်စက်သုံးဆီ၊ အင်ဂျင်ဝိုင်၊ အမဲဆီအစရှိသောစွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်မြေထုနှင့်ရေထုညစ်ညမ်းခြင်း၊ လုပ်ငန်းခွင်အတွင်းရှိ အလုပ်သမားများ၏စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုဖြစ်စေခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်နိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Thu Kha Yadanar Co.,Ltd.မှ နိုင်ငံတကာအဆင့်မီ အဆောက်အဦများ ဆောက်လုပ်ပြီး ငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများဆောင်ရွက်ခြင်းကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာတာဝန်ခံပူးပေါင်းဆောင်ရွက်မှု ( Corporate Social Responsibility-CSR )အတွက် အသားတင်အမြတ်ငွေ၏(၂%)အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ( Environmental Impact Assessment-EIA )အားဆောင်ရွက်ပြီး အစီရင်ခံစာပြုစုရေးသားတင်ပြရန်။

(ဂ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်ပျက်စီးမှုမဖြစ်စေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့်လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည့်ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Manangement Plan - EMP )ကို ရေးဆွဲတင်ပြ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင် ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီလိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

**THU KHA YADANAR COMPANY LIMITED.**
Room (B), Business Center, City Golf Resort Hotel, Thirimingalar Road,
Ywarma, Insein, Yangon.
Phone 95-1-641763~7 Fax : 95-1-641701

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

စာအမှတ် ။ ။ 07 / TKY / 2016.
ရက်စွဲ ။ ။ ၂၀၁၆–ခုနှစ်၊ မတ်လ ( ၁ )ရက်။

အကြောင်းအရာ ။ ။ **ကတိဝန်ခံချက် တင်ပြခြင်း။**
ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ (၂၃)ရက်နေ့ နေ့စွဲပါ စာအမှတ် ရက–၄ / မ–၁၅၃၄ / ၂၀၁၆(၂၈၈)။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ကျွန်တော်များ Thu Kha Yadanar Co.,Ltd သည် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ အမှတ်–(၂၉)၊ မင်းရဲကျော်စွာလမ်း၊ ကကခ(၁)၊ စိန်ဂျွန်းအုပ်စုသိုလှောင်ရုံ ဝင်းအတွင်းရှိ မြေဧရိယာ(၁၁.၆၆၃)ဧကအနက်မှ (၄.၉၈)ဧကကို ငှားရမ်း၍ Residential and Club House လုပ်ငန်းများ တည်ဆောက်ခြင်းကို (B.O.T) စနစ်ဖြင့် နှစ်ရှည်ငှားရမ်း လုပ်ကိုင်ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အဆိုပြုချက် စိစစ်ရေးအဖွဲ့(၇/၂၀၁၆)အစည်းအဝေးသို့ တင်ပြလျှောက်ထားခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ One Stop Service အဖွဲ့(ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့)သို့ သဘောထားမှတ်ချက်တောင်းခံခဲ့ပါသည်။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ One Stop Service အဖွဲ့မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (E.I.A) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ်(E.M.P) Report များကို ရေးဆွဲတင်ပြရန် သဘောထားပြန်ကြားခဲ့ပါသည်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှလည်း အထက်ရည်ညွှန်းချက်ပါစာဖြင့် ကျွန်တော်များကုမ္ပဏီထံသို့ (E.I.A) နှင့် (E.M.P) အစီရင်ခံစာများ ရေးဆွဲတင်ပြရန် အကြောင်းကြားခဲ့ပါသည်။ ယခုအခါ ကျွန်တော်များကုမ္ပဏီမှ (E.I.A) နှင့် (E.M.P) အစီရင်ခံစာများကို Myanmar Statistical Association မှ ပညာရှင်များနှင့် ရေးဆွဲနေပြီ ဖြစ်ပါသဖြင့် အစီရင်ခံစာများရရှိပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ဆက်လက်ပေးပို့သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြု တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

**U THAUNG HTIKE MIN**
**MANAGING DIRECTOR**
**THU KHA YADANAR CO., LTD.**

မိတ္တူကို
– ရုံးလက်ခံ။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီးအစိုးရ
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
မြို့တော်ခန်းမ၊ ရန်ကုန်မြို့

စာအမှတ်၊ ၁၀၃ / ၀၃ ( ၆၃၅ ) / စသက
ရက် စွဲ ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၈ ရက်

သို့
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ သဘောထားမှတ်ချက် တင်ပြခြင်း

ရည် ညွှန်း ချက် ။ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၁၇-၂-၂၀၁၆ ရက်စွဲပါစာအမှတ် ၃ / ၆ - ၃ (၄၃) / စိုက်မွေး

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့နယ်ရှိ နိုင်ငံတော်ကာကွယ်ရေးတက္ကသိုလ်(ဝင်းဟောင်း)နေရာနှင့် အမှတ်(၁)မော်တော်ယာဉ်တပ်ရင်း(နေရာဟောင်း)ရှိ စီမံကိန်းများအတွက် အစားထိုးမြေနေရာရရှိထားပြီး ဖြစ်သော Thu KhaYadanarCo.,Ltd မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂျွန်းအုပ်စုသိုလှောင်ရုံရှိ မြေ(၄.၉၈)ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇) လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်းအား လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောက်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးသောင်းထိုက်မင်းမှ လျှောက်ထားလာခြင်းအပေါ် ရည်ညွှန်းပါစာဖြင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီသို့ သဘောထားမှတ်ချက်တောင်းခံလာပါသည်။

၂။ အဆိုပြုမြေနေရာသည် ရွှေတိဂုံဘုရားကန့်သတ်ဇရိယာအတွင်း၌ တည်ရှိပြီး တင်ပြပုံစံအရ (၂)ထပ် Club House Building နှင့် Basement (၂)ထပ် + (၁၄)ထပ် Residence အဆောက်အဦ(၇)လုံး ပါရှိရာတွင် အဆိုပါစီမံကိန်းဝင်းအတွင်း၌ ၂၀'-၀"အကျယ် ဒီးသတ်ကားပတ်လမ်းထားရှိခြင်း၊ Basement -1 နှင့် 2 ၌ ကားပါကင်ဧရိယာ၊ Ground Floor နှင့် Typical Floor များတွင် Residence Units- ၇၃၃ Units ပါရှိပြီးအဆောက်အဦအမြင့်ပင်လယ်ရေမျက်နှာပြင်အထက် ၁၈၈'-၀" ဖြင့် တင်ပြထားသောကြောင့် ရွှေတိဂုံစေတီတော် အလယ်ပစ္စယံ၏ ပင်လယ်ရေမျက်နှာပြင်အထက် အမြင့် ၁၉၀'-၀" ထက် ကျော်လွန်မှုမရှိပါ။ အထပ်မြင့်အဆောက်အအုံဆောက်လုပ်မှုဆိုင်ရာစံချိန်စံညွှန်းများစစ်ဆေးရေးနှင့်ကြီးကြပ်ရေးအဖွဲ့ (HIC)၏ လုပ်ထုံးလုပ်နည်းများအရ စိစစ်ရာတွင် လိုအပ်သော ကားစီးရေမှာ (၈၈၀)စီး ဖြစ်ပြီး တင်ပြကားစီးရေ (၈၈၀)စီး ဖြစ်သဖြင့် ကားစီးရေလုံလောက်မှုရှိပြီး FAR (၄.၈၁)၊ BCR (၀.၅၅)ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂျွန်းအုပ်စုသိုလှောင်ရုံရှိမြေ(၄.၉၈)ဧကတွင် B.O.T စနစ်ဖြင့် Thu Kha Yadanar Co., Ltd မှ နိုင်ငံတကာအဆင့်မီအထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံးနှင့် Club House Building (၁)လုံးသည် ရွှေတိဂုံစေတီတော် ကန့်သတ်ဇရိယာအတွင်း၌ တည်ရှိပြီး သတ်မှတ်ပင်လယ်ရေ ချက်နှာပြင်အထက် အမြင့် ၁၉၀'-၀"ထက် ကျော်လွန်မှုမရှိခြင်း၊ ကားစီးရေကိုက်ညီမှုရှိခြင်း၊ သတ်မှတ် Ratio များ ကိုက်ညီမှု ရှိပါ၍ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီမှု ရှိပါကြောင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်။

၁၈/၁၂/၂၀၁၆

ဥက္ကဋ္ဌ (ကိုယ်စား)

(ဉာဏ်လင်းစိုး၊ ရုံးအဖွဲ့မှူး)

ဒုဥက္ကဋ္ဌကို

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မျှောစာတွဲ

ရုံးလက်ခံ

နောက်ဆက်တွဲ(ဂ)


# မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
# MYANMAR ENGINEERING SOCIETY

Hlaing Universities' Campus, Hlaing Township, Yangon, Myanmar
Tel : 95-1-519673 ~ 76, Fax : 95-1-519681
E-mail:mes@mptmail.net.mm, Website: www.mes.org.mm


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မအသ / MIC /၀၁၉၂ / ၂၀၁၆။
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ မတ်လ၊ ( ၁ ) ရက်။

အကြောင်းအရာ။ **။Thu Kha Yadanar Co.,Ltd. ၏ B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံးနှင့် Club House Building (၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် တောင်းခံထားသည့်ကိစ္စ။**

ရည်ညွှန်းချက်။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ (၁၇)ရက် နေ့စွဲပါ စာအမှတ် ရက-၄/မ-၁၅၃၄/၂၀၁၆(၂၂၈)။

၁။ အထက်ဖော်ပြပါ အကြောင်းအရာကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သက်ဆိုင်ရာ Thu Kha Yadanar Co.,Ltd. မှ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ (၁၇)ရက်စွဲဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံရှိ မြေ (၄.၉၈)ကေတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံးနှင့် Club House Building (၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အဆောက်အဦနှင့် ပတ်သက်သော ပုံစံများနှင့် အသေးစိတ်ဇယားများကို လိုအပ်သော လမ်းညွှန်ချက်များ ပေးပါရန် တင်ပြခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စနှင့် ပတ်သက်၍ သေချာစွာ စိစစ်နိုင်ရန် ဖိတ်ကြားချက်အရ Thu Kha Yadanar Co.,Ltd. မှ (၂၂.၂.၂၀၁၆) ရက်နေ့တွင် Presentation ပြုလုပ်ခဲ့ပါသည်။ Presentation နေ့တွင် Basement သို့ ဝင်ပေါက်တစ်ပေါက် ထပ်တိုးထားရှိရန်နှင့် သာရေးနာရေးအတွက် ခန်းမ(Hall)တစ်ခု ထည့်သွင်းစဉ်းစားရန် နှင့် Retail Shop များ ထည့်သွင်းစဉ်းစားရန် လမ်းညွှန်ချက်အရ ပြုပြင်ပြီး ပုံစံများ(Revised Drawings)ကို (၂၆.၂.၂၀၁၆) ရက်နေ့တွင် လာရောက်ပေးပို့ခဲ့ပါသည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် ရန်ကုန်မြို့တွင် တည်ဆောက်မည့် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံးနှင့် Club House Building (၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်းဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် သတ်မှတ်ထားသော စံချိန်စံညွှန်း များနှင့်အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

၄။ အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ပူးတွဲပါဇယားဖြင့် ထောက်ခံတင်ပြအပ်ပါသည်။

၅။ အောက်ပါအချက်များကို ထည့်သွင်းစဉ်းစားရန် အကြံပြုပါသည်။

(က) အဝင်လမ်းအ 8.5 m သာ ရှိပြီး ကားအဝင်အထွက် ကျပ်နိုင်သဖြင့် အဝင်ဝကို ကျယ်နိုင်သမျှ ကျယ်၍ စဉ်းစားပေးရန်။
(ခ) Basement Car Parking Area သို့ ရည်ရွယ်ထားသော ကားအစီးရေ (၈၀၀) ဝင်ရန်အတွက် ဝင်ပေါက်ကို အနည်းဆုံး ၂ပေါက်ထားရှိပေးရန်။
(ဂ) နေထိုင်သူများ အတွက် သာရေးနာရေးကျင်းပနိုင်ရန် ခန်းမ(Community Hall)တစ်ခု ထည့်သွင်း တည်ဆောက်ပေးရန်။
(ဃ) School Bus System အတွက် Drop Out Area နှင့် Bus Turning Area လုံလောက်စွာ ထားပေးရန်။
(င) မီးဘေးကာကွယ်ရန်အတွက် အလိုအလျောက် မီးငြိမ်းသတ်စနစ်ဖြစ်သည့် Sprinkler System ကို ထည့်သွင်းပေးရန်။

၆။ အဆောက်အဦ၏ Electrical, Water & Sanitation နှင့် Air-Con System တို့နှင့် ပတ်သက်သည့် သဘောထားမှတ်ချက်အား သီးခြား ထပ်မံ တင်ပြမည်ဖြစ်ပါသည်။

မှတ်ချက်။ ။(၁) ယခုတင်ပြသော စီမံကိန်းစိစစ်ရာတွင် တင်ပြသောပုံစံ၊ ဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ် တည်ဆောက်မည့် ပုံစံ၊ ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသောပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့် အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ သို့အတွက် လိုအပ်ပါက Detail Drawings မှ တွက်ချက်ထားသော Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။ (Subject to Check)

(၂) သက်ဆိုင်ရာမီးသတ်ဦးစီးဌာနမှချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဥက္ကဋ္ဌ(ကိုယ်စား)
(ကြည်လွင်၊အတွင်းရေးမှူး)
MIC Projects Assessment Committee
မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

**မိတ္တူကို** – Managing Director, Thu Kha Yadanar Co.,Ltd.
– ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
– အတွင်းရေးမှူး၊ MIC Projects Assessment Committee
– ရုံးလက်ခံ / မျှောစာတွဲ



Address: MES Building, Hlaing Universities' Campus, Hlaing Township, Yangon 11052, Myanmar.

| စဉ် | ပစ္စည်းအမျိုးအမည် | Unit | MIC စာအုပ်ပါ အရေအတွက် | BQ တွင် ပါဝင်သော အရေအတွက် | ထောက်ခံတင်ပြသော အရေအတွက် |
|---|---|---|---|---|---|
| ၁။ | Cement | Tons | ၂၂၅၀၀ | ၂၂၅၀၀ | ၂၁၁၃၀ |
| ၂။ | Rebar | Tons | ၁၉၆၀၀ | ၁၉၆၀၀ | ၁၃၅၁၉. |
| ၃။ | U-bar | Tons | ၄၆ | ၄၆ | ၂၈ |
| ၄။ | Structural Steel | Tons | ၁၈၄ | ၁၈၄ | ၁၀၄ |
| ၅။ | Steel Plate | Tons | ၅၃.၂ | ၅၃.၂ | ၄၀ |
| ၆။ | Prestressed Steel Plate | Tons | ၆၆.၅ | ၆၆.၅ | ၅၁ |
| ၇။ | Painting | L | ၆၃၈၀ | ၆၃၈၀ | ၆၃၈၀ |
| ၈။ | Steel Wire | Tons | ၃၅.၇ | ၃၅.၇ | ၃၀ |
| ၉။ | Anti-corrosive Paint | L | ၁၂၁၈ | ၁၂၁၈ | ၅၀၅ |
| ၁၀။ | Antirust Paint | L | ၁၂၇၆ | ၁၂၇၆ | ၅၀၅ |
| ၁၁။ | Dump Truck | No | ၁၂ | ၁၂ | ၁၀ |
| ၁၂။ | Bulldozer(2 Tons) | Set | ၂ | ၂ | ၁ |

Tons = တန်, L = လီတာ, No = ခုရေ, Set = ခုရေ

**THU KHA YADANAR COMPANY LIMITED.**
Room (B), Business Center, City Golf Resort Hotel, Thirimingalar Road,
Ywarma, Insein, Yangon.
Phone 95-1-641763~7 Fax : 95-1-641701

Ref : Date :

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း(MES) မှ ထောက်ခံတင်ပြထားသော

ဆောက်လုပ်ရေးပစ္စည်းများနှင့် ပတ်သက်၍ တင်ပြခြင်း

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ **Thu Kha Yadanar Co., Ltd.** သည် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ် (၂၉) ရှိ ကကခ-(၁)၊ စိန်ဂျွန်းအုပ်စုသိုလှောင်ရုံ၏ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်မြေ (၄. ၉၈)ဧကတွင် **B.O.T** စနစ်ဖြင့် ကနဦးနှစ် (၅၀) နှင့် တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်း(၂) ကြိမ် တိုးမြှင့်ငှားရမ်းပြီး Hotel, Service Apartment, Commercial Building, Residence and Club House များတည်ဆောက်၍ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၎င်းအဆိုပြုလုပ်ငန်း၏ ဆောက်လုပ်ရေးပစ္စည်းများနှင့် ပတ်သက်၍ မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်း (MES) မှ ထောက်ခံထားသည့်အတိုင်း ပြန်လည်ပြင်ဆင် တင်ပြထားပါသည်။

လေးစားစွာဖြင့်

U THAUNG HTIKE MIN
MANAGING DIRECTOR
THU KHA YADANAR CO., LTD.

# THU KHA YADANAR COMPANY LIMITED

၏

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

ဆောင်ရွက်လုပ်ကိုင်မည့် လုပ်ငန်း

စီမံချက် အဆိုပြုလွှာ









ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ဆောက်လုပ်ရေးဝန်ကြီးဌာန

ဝန်ကြီးရုံး

နေပြည်တော်

စာအမှတ်၊ ၂၁ / ဌာနခွဲ - ၂ / MIC / ၂၀၁၆(စီ ၂၆၁)

ရက် စွဲ ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သုခရတနာကုမ္ပဏီလီမိတက်မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင် မြေပေါ်တွင် BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါ ရန်အဆိုပြုတင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃ - ၁၁ - ၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၄/ထွေ/၂၀၁၅(၉၁၇)အရပေးပို့သည့် (၂၀-၁၁-၂၀၁၅)ရက်နေ့ အစည်းအဝေးမှတ်တမ်း

(၂) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၄-၂-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ၂(၅) ၄-၁၆/နပတ(၁၁၇)

(၃) သုခရတနာကုမ္ပဏီလီမိတက် ၏ ၂၁-၁-၂၀၁၆ ရက်စွဲပါ စာအမှတ် ၊ 05/TKY/2016

(၄) ပြည်ထဲရေးဝန်ကြီးဌာန၏ ၂ - ၂ - ၂၀၁၆ ရက်စွဲပါ အမိန့်ကြော်ငြာစာ (၂၇၁/၂၀၁၆)

၁။ ရန်ကုန်မြို့ ၊ ရွှေတိဂုံဘုရား ၊ သိင်္ဂုတ္တရကုန်းတော်နှင့် ဆက်စပ်နယ်မြေတဝိုက်ရှိ စီမံကိန်းများအတွက် ကာကွယ်ရေးဝန်ကြီးဌာန ၊ စစ်ထောက်ချုပ်ရုံးနှင့် မြေငှားစာချုပ်ချုပ်ဆိုထားသော ပြည်တွင်းပြည်ပ ကုမ္ပဏီ(၄)ခုအား အစားထိုးမြေနေရာချထားပေးနိုင်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သက်ဆိုင်ရာအစိုးရဌာနများ နှင့် ကုမ္ပဏီများအား ခေါ်ယူညှိနှိုင်းဆွေးနွေးခဲ့ပြီး ဆက်လက်ဆောင်ရွက်ရမည့် ကိစ္စရပ်များအတွက် အစည်းအဝေးဆုံးဖြတ်ချက်မှတ်တမ်းကို ရည်ညွှန်းချက်(၁)ပါစာဖြင့် အကြောင်းကြားပေးပို့ခဲ့ပါသည်။

၂။ အထက်ပါကုမ္ပဏီများအနက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အမှတ်-မနသ - ၉၆၉/၂၀၁၄(၁၃-၃-၂၀၁၄)အရ Hotel , Service Apartment , Commercial Building , Residence & Club House လုပ်ငန်းများဆောင်ရွက်ရန် ခွင့်ပြုထားသော မြန်မာနိုင်ငံသားပိုင် သုခရတနာကုမ္ပဏီလီမိတက်အား အစားထိုးမြေနေရာ အဖြစ် ရန်ကုန်တိုင်းဒေသကြီး ၊ ရန်ကုန်အနောက်ပိုင်းခရိုင် ၊ လမ်းမတော်မြို့နယ် ၊ မင်းရဲကျော်စွာ လမ်း ၊ မြေတိုင်းရပ်ကွက်အမှတ် (၂၀-အေ,၄၆-ဘီ) ၊ မြေကွက်အမှတ် (၂-A/၂ ၊ ၂/၂ ၊ ၈-A)ရှိ မြေ (၁၁.၆၆၃)ဧက အနက်မှ (၄.၉၈)ဧကကို ပြန်လည် ငှားရမ်းပေးရန် လျာထားခဲ့ပါသည် ။

၃။ လှာထား မြေနေရာ (ကကခ(၁)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံ၊ ကုန်သွယ်ရေးဝင်း)မှာ ယခင်က စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနမှ စီမံခန့်ခွဲခဲ့သော်လည်း ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် ညှိနှိုင်းချက်အရ ပြည်ထဲရေးဝန်ကြီးဌာနမှ ယင်းမြေနေရာ (၄.၉၈) ဧက အပါအဝင် စုစုပေါင်း (၁၁.၆၆၃) ဧကကို ရည်ညွှန်းချက် (၄) ပါအမိန့်ကြော်ငြာစာဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာနသို့ (၂-၂-၂၀၁၆) နေ့တွင် အခမဲ့လွှဲပြောင်း ပေးပြီးဖြစ်ပါသည်။

၄။ အဆိုပါ မြေကွက်အား ယခင်ကကွယ်ရေးဝန်ကြီးဌာန နှင့် ချုပ်ဆိုခဲ့သည့် စာချုပ်ပါ အချက်အလက်များနှင့် နှုန်းထားများအတိုင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြု ချက်ဖြင့် အောက်ပါအတိုင်း ငှားရမ်းရန် ပဏာမသဘောတူထားပါသည် -

| | | |
|---|---|---|
| (က) မြေငှားသက်တမ်း | - | (၅၀+၁၀+၁၀)နှစ် |
| (ခ) မြေအသုံးချမှုပရီမီယံကြေး | - | US$ ၉.၉၆သန်း(၁ဧကလျှင် US$ ၂သန်းနှုန်း) |
| (ဂ) နှစ်စဉ်မြေငှားရမ်းခ | - | US$ ၉၄၂,၅၃၂.၅<br>(US$15/sqm/year on lettable area)<br>( lettable area ကို စုစုပေါင်းကြမ်းခင်း ဧရိယာ၏ ၆၅% ဖြင့် တွက်ချက်ပါသည်) |

၅။ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန နှင့် သုခရတနာကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် BOT စာချုပ်နှင့် မြေငှားစာချုပ်(မူကြမ်း)များကို ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ ရည်ညွှန်းချက် (၂) ပါစာဖြင့် စိစစ်ပြန်ကြားပြီးဖြစ်ပါသဖြင့် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြု ချက်နှင့်အညီ လိုအပ်သလို ပြင်ဆင်ပြီးဖြစ်ပါသည်။

၆။ သို့ဖြစ်ပါ၍ သုခရတနာကုမ္ပဏီလီမိတက်မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်း ဒေသကြီး ၊ ရန်ကုန်အနောက်ပိုင်းခရိုင် ၊ လမ်းမတော်မြို့နယ် ၊ မင်းရဲကျော်စွာလမ်း ၊ မြေတိုင်း ရပ်ကွက်အမှတ် (၂၀-အေ,၄၆-ဘီ) ၊ မြေကွက်အမှတ် (၂-A/၂ ၊ ၂/၂ ၊ ၈-A)ရှိ မြေ (၁၁.၆၆၃)ဧက အနက်မှ (၄.၉၈) ဧကအား ငှားရမ်း၍ BOT စနစ် ဖြင့် Hotel , Service Apartment , Commercial Building , Residence & Club House လုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းချက်(၃)ပါစာဖြင့် လုပ်ငန်း အဆိုပြုလွှာ တင်ပြလာခြင်းအား ခွင့်ပြုပေးနိုင်ပါရန် အဆိုပြု လွှာ(၁)စုံ ၊ ရည်ညွှန်းချက် ပါစာများ မိတ္တူ(၁)စုံတို့နှင့်အတူ ပူးတွဲပေးပို့ တင်ပြအပ်ပါသည်။

၁၁/၂/၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
စိုးတင့်၊ဒုတိယဝန်ကြီး

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန။
- ဒုတိယညွှန်ကြားရေးမှူး၊ပြည်သူ့ဆက်ဆံရေးဌာန၊မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန။

**THU KHA YADANAR COMPANY LIMITED.**
Room (B), Business Center, City Golf Resort Hotel, Thirimingalar Road,
Ywarma, Insein, Yangon.
Phone 95-1-641763~7 Fax : 95-1-641701

*Ref :* *Date :*

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၆ခုနှစ်မတ်လ (၁) ရက်။

အကြောင်းအရာ။ ။ <u>ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်မြေ (၄. ၉၈) ဧကတွင် **B.O.T** စနစ်ဖြင့် Hotel, Service Apartment, Commercial Building, Residence and Club House များအား တည်ဆောက်၍လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။</u>

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏ **Thu Kha Yadanar Co., Ltd.** သည် ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ် (၂၉) ရှိ ကကခ-(၁) စိန်ဂျွန်းအုပ်စုသိုလှောင်ရုံ၏မြေ (၄. ၉၈)ဧကတွင် **B.O.T** စနစ်ဖြင့် ကနဦးနှစ် (၅၀) နှင့် တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်း(၂) ကြိမ် တိုးမြှင့်ငှားရမ်းပြီး Hotel, Service Apartment, Commercial Building, Residence and Club House များတည်ဆောက်၍လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

အထက်ဖော်ပြပါအဆိုပြုလုပ်ငန်းအား ကျွန်တော်များကုမ္ပဏီမှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့နယ်၊ ကမ္ဘာအေးဘုရားလမ်း၊ အမှတ်(၁)မော်တော်ယာဉ်တပ်ရင်း(တပ်ရင်းဟောင်း)၊ မြေတိုင်းရပ်ကွက်အမှတ် (၆၁/၆၃) ၏မြေ (၂၉. ၇၂၇) ဧကအနက် (၇. ၆၉၅) ဧကတွင်အထပ် (၁၀) ထပ်အခန်း (၁၈၉)ခန်းပါအဆင့်မြင့် ဟိုတယ် လုပ်ငန်း၊ အထပ် (၁၀) ထပ်အခန်း (၃၄၀) ပါ **Residence** (၁၄) လုံးနှင့်အထပ် (၁၀) ထပ်ပါ **Office Building** နှင့် **Commercial Building** များကိုတည်ဆောက်၍ **BOT** စနစ်ဖြင့်လုပ်ငန်းဆောင်ရွက်ခွင့်အားမြန်မာနိုင်ငံရင်း နှီးမြှုပ်နှံမှုကော်မရှင်မှခွင့်ပြုမိန့်အမှတ် မနသ ၉၆၉/၂၀၁၄ (၁၃-၃-၂၀၁၄) ဖြင့်ခွင့်ပြုခဲ့ပြီး၊ အဆိုပါလုပ်ငန်းအား နိုင်ငံတော်မှ အထက်ဖော်ပြပါမြေနေရာတွင်ပြောင်းလဲဆောင်ရွက်ရန်လမ်းညွှန်ချက်အရ အဆိုပြုချက်အားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြခဲ့ရာ (၁၆-၀၂-၂၀၁၆) ရက်နေ့တွင် ကျင်းပပြုလုပ်သည့်အဆိုပြုချက်စိစစ်ရေးအဖွဲ့ (၇/၂၀၁၆) ကြိမ်မြောက်အစည်းအဝေး၏လမ်းညွှန်ချက်အတိုင်း ပြင်ဆင်ပြီးဖြစ်သဖြင့်ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန်အဆိုပြုလွှာ ( ၁၀ ) စုံကိုပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

**U THAUNG HTIKE MIN**
**MANAGING DIRECTOR**
**THU KHA YADANAR CO., LTD.**

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## ခွင့်ပြုမိန့်

ပုံစံ (မနသ-၂)
တအမှတ် ၂၈၁၆-၄
ရက်စွဲ ၁၃-၃-၂၀၁၄
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၆၉ / ၂၀၁၄ ၂၀၁၄ ခုနှစ်၊ မတ် လ ၁၃ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးမိုးဆန်းအောင်

(ခ) အဘ အမည် ဦးအောင်မျိုး

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၃/ဘအန(နိုင်) ၀၂၅၀၇၂

(ဃ) နေရပ်လိပ်စာ အမှတ်(၈၀/စီ)၊ ကမ္ဘာ့အေး(၂)လမ်း၊ ရွှေတောင်ကြား(၁)ရပ်ကွက်၊ ဗဟန်း မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့်သို့မဟုတ်ဖွဲ့စည်းမည့်အဖွဲ့အစည်း Thu Kha Yadanar Co., Ltd. (သုခရတနာကုမ္ပဏီလီမိတက်)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်၊ Residence ၊ Office Building နှင့် Commercial Building များ တည်ဆောက်၍ ငှားရမ်းခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ) ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း) စစ်ထောက် ချုပ်ရုံးပိုင် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့နယ်၊ ကမ္ဘာအေးဘုရားလမ်း၊ အမှတ်(၁) မော်တော် ယာဉ်တပ်ရင်း(နေရာဟောင်း)၊ မြေတိုင်းရပ်ကွက် အမှတ်(၆၁)(၆၃)ရှိ မြေ(၂၉.၇၂၇)ဧက အနက် မြေ(၇.၆၉၅)ဧက

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၇၀၀၀၀.၀၀ သန်း (အမေရိကန်ဒေါ်လာ ၆၃.၁၇ သန်း အပါအဝင် စုစုပေါင်း ကျပ်သန်း ခုနှစ်သောင်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
**မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန**
**နေပြည်တော်**

အကြောင်းအရာ။ **သုခရတနာကုမ္ပဏီလီမိတက်မှ BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

ရည်ညွှန်းချက် ။

(၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃ - ၁၁ - ၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက - ၄ / မ - ထွေ / ၂၀၁၅ (၉၁၇) အရ ပေးပို့သည့် (၂၀-၁၁-၂၀၁၅) ရက်နေ့ အစည်းအဝေးမှတ်တမ်း

(၂) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၄-၂-၂၀၁၆ ရက်စွဲပါ စာအမှတ် ၊ ၂(၅) ၄-၁၆/ နပတ(၁၁၇)

(၃) သုခရတနာကုမ္ပဏီလီမိတက် ၏ ၈-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ 05/ TKY/2016

(၄) ပြည်ထဲရေးဝန်ကြီးဌာန၏ ၂-၂-၂၀၁၆ ရက်စွဲပါ အမိန့်ကြော်ငြာစာ (၂၇၁/၂၀၁၆)

၁။ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးနှင့် မြေငှားစာချုပ်ချုပ်ဆိုထားသော ပြည်တွင်း ပြည်ပ ကုမ္ပဏီ (၄)ခုအား ရန်ကုန်မြို့၊ ရွှေတိဂုံဘုရား၊ သိင်္ဂုတ္တရကုန်းတော်နှင့် ဆက်စပ်နယ်မြေတစိုက်ရှိ စီမံကိန်းများအတွက် အစားထိုးမြေနေရာ ငှားရမ်းနိုင်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ သက်ဆိုင်ရာဌာနဆိုင်ရာများနှင့် ကုမ္ပဏီများအား ခေါ်ယူညှိနှိုင်းဆွေးနွေးခဲ့ပြီး ဆက်လက် ဆောင်ရွက်ရမည့် ကိစ္စရပ်များအတွက် အစည်းအဝေးဆုံးဖြတ်ချက်မှတ်တမ်းကို ရည်ညွှန်း(၁)ပါစာ ဖြင့် အကြောင်းကြားပေးပို့ခဲ့ပါသည်။

၂။ အထက်ပါကုမ္ပဏီများအနက်မှ မြန်မာနိုင်ငံသားပိုင်သုခရတနာကုမ္ပဏီလီမိတက်သည် Hotel , Service Apartment , Commercial Building, Residence and Club House လုပ်ငန်း များအား BOT စနစ်ဖြင့် ဆောင်ရွက်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်အမှတ် - မနသ - ၉၆၉ / ၂၀၁၄ ( ၁၃-၃-၂၀၁၄ )ကို ရရှိ ထားပြီး၊ အစားထိုးမြေနေရာအဖြစ် ရန်ကုန်တိုင်း ဒေသကြီး ၊ ရန်ကုန်အနောက်ပိုင်းခရိုင်၊ လမ်းမတော်မြို့နယ် ၊မင်းရဲကျော်စွာလမ်း၊ မြေတိုင်း ရပ်ကွက် အမှတ် (၂၀-အေ,၄၆-ဘီ) ၊ မြေကွက်အမှတ်(၂-A/၂/၂၊ ၈-A) ရှိ မြေ(၉.၉၆)ဧက အနက် မှ (၄.၉၈) ဧက ပြန်လည် ငှားရမ်းပေးရန် လျာထားပါသည်။






ဆုံး (၃)လကြိုတင်၍ "အငှားချထားသူ"သို့ စာဖြင့် အကြောင်းကြားတင်ပြရမည်။ ကနဦး နှစ်(၅၀)ငှားရမ်
ပြီး တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်း (၂)ကြိမ်အထိ မြေငှားသက်တမ်းတိုးမြှင့်ခြင်းသည် နှစ်ဖက်
သဘောတူညီချက်ရရှိပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်စေ
ရမည်။

**၁၂။ စာချုပ်အကျိုးသက်ရောက်မည့်နေ့ရက်**

ဤစာချုပ်သည် "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့ တရားဝင်လက်မှတ်ရေးထိုးသည့်နေ့မှ စတင်၍
အကျိုးသက်ရောက်စေရမည်။

**၁၃။ အငြင်းပွားမှုဖြေရှင်းခြင်း**

ဤမြေငှားစာချုပ်မှ အငြင်းပွားမှုပေါ်လာပါက ထိုအငြင်းပွားမှုကို နှစ်ဦးနှစ်ဖက် ငြိမ်းချမ်းစွာ ညှိနှိုင်းဖြေရှင်းကြရမည်
ဤကဲ့သို့ ညှိနှိုင်းဖြေရှင်းမရပါက ဥပဒေနှင့်အညီ စီရင်ဆုံးဖြတ်ခွင့်ရှိသော တရားရုံး၏ အဆုံးအဖြတ်ကို ခံယူရမည်။

**၁၄။ စာချုပ်ရပ်စဲခြင်း**

(က) ဤစာချုပ်ကို ချုပ်ဆိုသူများသည် အောက်ဖော်ပြပါ အကြောင်းအချင်းရာတစ်ရပ်ရပ် ဖြစ်ပေါ်လာလျှင်
စာချုပ်ကို ရပ်စဲနိုင်သည် –

(၁) ဤစာချုပ်ပါ အဓိကတာဝန်များနှင့် စည်းကမ်းချက်တစ်ရပ်ရပ်ကို စာချုပ်ဝင်တစ်ဖက်ဖက်က
ဆောင်ရွက်ရန်ပျက်ကွက်ခြင်း။

(၂) မလွန်ဆန်နိုင်သောဖြစ်ရပ်သည် တစ်ဆက်တည်း (၆)လ ကာလကြာမြင့်ခြင်း။

(၃) လုပ်ငန်း၏ မူလရည်မှန်းချက်များကို ဆက်လက်အကောင်အထည်ဖော်နိုင်စွမ်းမရှိတော့ခြင်း။

(၄) နှစ်ဖက်သဘောတူ စာချုပ်ရပ်စဲခြင်း။

(ခ) ဤစာချုပ်ချုပ်ဆိုသူများ၏ လုပ်ငန်းရပ်စဲလိုကြောင်း စာဖြင့်ရေးသားတင်ပြချက်သည် မြန်မာနိုင်ငံ
ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီး နောက်မှသာ အကျိုးသက်ရောက်မှု ရှိစေရမည်။






(ဂ) အထက်ဖော်ပြပါ အကြောင်းအရာများကြောင့် စာချုပ်ရပ်စဲသည့်အခါ စာချုပ်ရပ်စဲပြီးနောက်
(၃)လအတွင်း မြေနှင့်တကွ မြေပေါ်ရှိ အဆောက်အဦ၊ တပ်ဆင်ထားသော ပစ္စည်းများအပါအဝင်
အားလုံးတို့ကို "အငှားချထားခြင်းခံရသူ"က "အငှားချထားသူ"သို့ အဖိုးစားနားမဲ့ ပြန်လည်ပေးအပ်ရမည်

## ၁၅။ ညှိနှိုင်းဆွေးနွေးခြင်းနှင့် စာချုပ်ပြင်ဆင်ခြင်း

လုပ်ငန်းများအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပေါ်ပေါက်လာသည့် အခြေအနေများ (သို့မဟုတ်) စည်းကမ်းချက်များသည် ဤသဘောတူစာချုပ်စည်းကမ်းချက်များနှင့် ကိုက်ညီမှုမရှိဘဲ ပြင်ဆင်ဖြည့်စွက်ပြောင်းလဲရန် လိုအပ်လာလျှင် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်စလုံး လိုအပ်သော ညှိနှိုင်း ဆွေးနွေးမှုများပြုလုပ်ပြီး စာချုပ်ကို နှစ်ဦးသဘောတူစာဖြင့် ပြင်ဆင်ချုပ်ဆိုနိုင်သည်။ ထိုသို့ ပြင်ဆင်ချက်များသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က သဘောတူမှသာလျှင် အတည်ဖြစ်စေရမည်။

## ၁၆။ ဓါတ်သတ္တု အရင်းအမြစ်များနှင့် ရတနာများ

ဤစာချုပ်ကာလအတွင်း မမျှော်လင့်ဘဲ ငှားရမ်းသည့် အဆောက်အဦများနှင့် မြေ၏ မြေပေါ်မြေအောက်အတွင်းမှ ဓါတ်သတ္တု အရင်းအမြစ်များနှင့် ရတနာများကို တွေ့ရှိရလျှင် "အငှားချထားခြင်းခံရသူ" က "အငှားချထားသူ"ထံသို့ ချက်ချင်းအကြောင်း ကြားရမည်။ "အငှားချထားသူ"က ထိုပစ္စည်းများကို ပိုင်ဆိုင်ရမည်ဖြစ်ပြီး "အငှားချထားသူ"သည် သက်ဆိုင်ရာ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရအဖွဲ့အစည်းများသို့ အကြောင်းကြားတင်ပြပေးရမည်။ ထိုပစ္စည်းများကို သက်ဆိုင်ရာအဖွဲ့အစည်းက လွတ်လပ်စွာ တူးဖော်ရယူခွင့် ရှိစေရမည်။

## ၁၇။ မလွန်ဆန်နိုင်သောဖြစ်ရပ်များ

မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက် ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှု ပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင် တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူ ဖြစ်ရပ်များဖြစ်ပြီး၊ ယင်းမလွန်ဆန်နိုင်သောဖြစ်ရပ်များ






လျော်ကြေးတောင်းခံခွင့် မရှိစေရ။ ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ (၇)ရက်အတွင်း "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ"သို့ ချက်ချင်း စာဖြင့်ရေးသား အကြောင်းကြား ရမည်။ "အငှားချထားသူ"က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး ထိုမလွန်ဆန်နိုင်သည့် အချိန်ကာလအတွင်း ဆိုင်းငံ့စေရမည်။ သို့ရာတွင် ဆိုင်းငံ့ကာလသည် အကျိုးအကြောင်းဆက်နွယ်မှုအရ လိုအပ်သည်ထက် ပို၍ မကြာစေရဘဲ ထိုအဖြစ်အပျက်ကိုလည်း ထိုမလွန်ဆန်နိုင်သောဖြစ်ရပ်ကို ခံရသူက အမြန်ဆုံးဖြစ်နိုင်သမျှ ဖယ်ရှားပစ် မည်။

## ၁၈။ ဝန်ထမ်းများခန့်ထားခြင်း

လိုအပ်သော ဝန်ထမ်းများကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ ဥပဒေများနှင့်အညီ "အငှားချထားခြင်းခံရသူ"သည် ခန့်ထားပြီး ယင်းတို့၏ လစာများ၊ အခကြေးငွေများ၊ ခရီးစရိတ်များ၊ အခွင့်အရေးများကို ဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ ခွင့်ပြုသွားရမည်။ နိုင်ငံခြားသားဝန်ထမ်းများကို ခန့်ထားရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်ကို ကြိုတင်ရယူရမည်။ နိုင်ငံခြားသားဝန်ထမ်းများ၊ ယင်းတို့၏ မိသားစုများသည် မြန်မာနိုင်ငံတွင် နေထိုင်စဉ် မြန်မာနိုင်ငံ၏ ဥပဒေများကို လေးစားလိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် "အငှားချထား ခြင်းခံရသူ"က တာဝန်ယူရမည်။

## ၁၉။ လွှမ်းမိုးသည့်ဥပဒေနှင့် ကင်းလွတ်ခွင့်၊ သက်သာခွင့်များ

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေတွင် ပြဋ္ဌာန်းထားသော အခွန်ကင်းလွတ်ခွင့်များ၊ အကောက်ခွန် ကင်းလွတ်ခွင့်များနှင့် အခြားသက်သာခွင့်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ခံစားခွင့်ရရှိစေရန် "အငှားချထားသူ"မှ ကူညီဆောင်ရွက်ပေးမည် ဖြစ်သည်။

## ၂၀။ လိုက်နာဆောင်ရွက်ရမည့် ဥပဒေ

နှစ်ဖက်သော စာချုပ်ဝင်များသည် ဤစာချုပ်မှ ပေါ်ပေါက်လာသည့် ၎င်းတို့၏ တာဝန်များကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်ကြရမည်။






## ၂၁။ ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ခြင်း

"အငှားချထားခြင်းခံရသူ"သည် စွန့်ပစ်ပစ္စည်းများ စနစ်တကျစွန့်ပစ်ရန်၊ ရေဆိုးများသန့်စင်စေရန် စီမံခြင်း ရေလွှတ်စနစ်ထားရှိခြင်းတို့ကို အစီအမံပြုလုပ်ထားရမည်။ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ ပတ်ဝန်းကျင်ထိန်းသိမ် ရေးဥပဒေ၊ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများ၊ လုပ်ထုံး လုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှ မရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

## ၂၂။ စာပေးစာယူပြုလုပ်ရန်ကိစ္စ

စာပေးစာယူပြုလုပ်ရာတွင် မြန်မာဘာသာဖြင့် ရေးသား၍ မှတ်ပုံတင်စာပို့ခြင်း၊ လေကြောင်းစာပို့ခြင်း၊ အမြန်ချော ပို့ခြင်း၊ တဲလက်စ်ဖြင့်ပို့ခြင်း၊ အီးမေးလ်၊ ဖက်စ်ဖြင့် ပို့ခြင်းတို့ကို အသုံးပြု၍ အောက်ပါလိပ်စာအတိုင်း အချင်းချင်း ဆက်သွယ်ရမည်။ လိပ်စာပြောင်းလဲခြင်းရှိပါက တစ်ဖက်သို့ ချက်ချင်းအသိပေး အကြောင်းကြားရမည် –

(က) **အငှားချထားသူ**

ဦးမင်းထိန်
ညွှန်ကြားရေးမှူးချုပ်
မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
ရုံးအမှတ်(၄၀)၊ နေပြည်တော်။
ဖုန်းနံပါတ် – ၀၆၇-၄၀၇၃၁၀
ဖက်စ်နံပါတ် – ၀၆၇-၄၀၇၄၄၆

(ခ) **အငှားချထားခြင်းခံရသူ**

ဦးသောင်းထိုက်မင်း (အုပ်ချုပ်မှုဒါရိုက်တာ)
THU KHA YADANAR CO., LTD၊ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ သီရိမင်္ဂလာလမ်း၊
မြို့တော်ဂေါက်ကွင်းအပန်းဖြေဟိုတယ်ဝန်း။






ဖုန်းနံပါတ် - ၀၁-၂၄၃၁၃၀~၃၁ ၊ ၀၁-၂၄၃၁၃၄~၃၅ ၊ ၀၁-၃၇၄၂၇၇

ဖက်စ်နံပါတ် - ၀၁-၂၄၂၉၄၆

## ၂၃။ မြေသို့ပြန်လည်ဝင်ရောက်ပိုင်ခွင့်

"အငှားချထားခြင်းခံရသူ"သည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်ခြင်းတို့ကြောင့် "အငှားချထားသူ"က ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာရန် "အငှားချထားသူ"သို့ အကြောင်းကြားစာ ပေးပို့ရမည်။ ယင်းပျက်ကွက်မှုကို ရက်ပေါင်း(၃၀)အတွင်း ပြန်လည်၍ မှန်အောင် ပြင်ဆင်ခြင်းမပြုလျှင် "အငှားချထားသူ"သည် ငှားရမ်းသည့်မြေပေါ်သို့ ပြန်လည်ဝင်ရောက်ခွင့်၊ မြေအားလုံးကို ပြန်လည် ရယူခွင့်ရှိသည့်အပြင် ထိုသို့ရယူချိန်မှစ၍ မြေငှားရမ်းမှုကို ရပ်စဲ ပြီးဆုံးစေရမည်။ မြေသို့ပြန်လည်ဝင်ရောက်သည့် အခွင့်အရေးများသည် ဤစာချုပ်ပါ "အငှားချထားသူ"က "အငှားချထားခြင်းခံရသူ"ထံမှ အခွင့်အရေးနှင့် တောင်းဆိုပိုင်ခွင့်များ ကို မထိခိုက်စေရ။

## ၂၄။ အာမခံထားခြင်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ မြန်မာ့အာမခံဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ လိုအပ်သော အမျိုးအစား အားလုံး အာမခံများ ထားပေးရမည်။

## ၂၅။ အထွေထွေ

ဤစာချုပ်တွင်ပါရှိသည့် မြေပုံ မြေရာဇဝင် စာရွက်စာတမ်း၊ အဆင့်မြင့် Residential and Club House အဆောက်အဦ ပုံစံများ၊ အထောက်အထားများသည် ဤသဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်။ ဤစာချုပ်သည် ယခင်က အချင်းချင်းသဘောတူညီချက်များ၊ နားလည်မှုများအားလုံးကို လွှမ်းမိုးသည်။ ဤစာချုပ်ပါ စည်းကမ်းချက်များကို စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် သိရှိသဘောပေါက် နားလည်ပြီး သဘောတူလက်ခံပါသဖြင့် ၂၀၁၆-ခုနှစ်၊ မတ်လ ( )ရက်နေ့တွင် မိမိတို့၏ တံဆိပ်လက်မှတ်များကို ရိုက်နှိပ်ရေးထိုးကြပါသည်။






| "အငှားချထားသူ" (ကိုယ်စား) | "အငှားချထားခြင်းခံရသူ" (ကိုယ်စား) |
|---|---|
| ဦးမင်းထိန် | ဦးသောင်းထိုက်မင်း |
| ညွှန်ကြားရေးမှူးချုပ် | အုပ်ချုပ်မှုဒါရိုက်တာ |
| မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန | THU KHA YADANAR CO., LTD |
| ဆောက်လုပ်ရေးဝန်ကြီးဌာန | |
| ရုံးအမှတ်(၄၀)၊ နေပြည်တော် | |

## အသိသက်သေများ

| | ၁။ | | ၂။ |
|---|---|---|---|
| လက်မှတ် | -------------------- | လက်မှတ် | -------------------- |
| အမည် | -------------------- | အမည် | -------------------- |
| ရာထူး | -------------------- | ရာထူး | -------------------- |
| လိပ်စာ | -------------------- | လိပ်စာ | THU KHA YADANAR CO., LTD |

ဆောက်လုပ်ရေးဝန်ကြီးဌာန

မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန၊ မြေနှင့်အိမ်ရာဌာနခွဲ

BLOCK NO ....ဒဂုံ၊ ၄(မြောက်)........ CIRCLE .....ဒဂုံမြို့သစ်မြို့နယ်..........YANGON Page No..........

| ORIGINAL RECORDS | | | | | B.PARTICULARS OF TRAN | |
|---|---|---|---|---|---|---|
| Holding No or Allotment | Total Area of Holding | Name and residence of person (if any)in possession next under Govt, by grant, lease or otherwise | Nature of title of person recorded in Column | Rent of Revenue | No. and date of registered deed of Transfer | Name and residence of Transferee |
| 1 | 2 | 3 | 4 | 5 | 6 | 7 |
| ၈,၈.၉,၂။၂,၂။၂-၃ | ၄.၉၅ ဧက | ဆောက်လုပ်ရေးဝန်ကြီးဌာန | [illegible] | - - - | - - - | - - - |
| | | | | | | |
| | | | | | | |
| | | | | | | |
| | | | | | | |
| | | | | | | |
| | | | | | | |
| | | | | | | |
| | | | | | | |
| | | | | | | |
| | | | | | | |
| | | | | | | |

၂၀၁၈-၂၀၁၉ ခုနှစ်သုံး မြေပုံ/မြို့မြေစာရင်းမှ ကူးသော တောက်နိုင်မှုတ် မိတ္တူ မြေပုံ/မြေ ရာဇဝင်ဖြစ်၍ သက်မှုန်ကန်ကြောင်း ထောက်ခံပါသည်။

ဒုတိယညွှန်ကြားရေးမှူး
မြေတိုင်းနှင့်မြေစာရင်းမှတ်တမ်းဌာနခွဲ
မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန

လက်ထောက်ညွှန်ကြားရေးမှူး
မြေတိုင်းနှင့်မြေစာရင်းမှတ်တမ်းဌာနခွဲ
မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန
စာအမှတ်
ရက်စွဲ
မြေတိုင်း/မြေစာရင်းဌာန
ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်
ရုံးခွန်တံဆိပ်ခေါင်း
၂၀၀ ကျပ်

u Kha Yadanar Co.,Ltd

နောက်ဆ

## Rent Schedule

| Building | Gross Floor Area ( sqm ) | Net Floor Area ( sqm ) 65% | Lease Rate US$/sqm/year | Construction Period | | | | | |
|---|---|---|---|---|---|---|---|---|---|
| | | | | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 |
| **Phase 1** | | | | | | | | | |
| Residential 1<br>Residential 2 | 21,800 | 14,170 | 15 | - | - | - | 212,550 | 212,550 | 212,550 |
| **Phase 2** | | | | | | | | | |
| Residential 3<br>Residential 4<br>Residential 5<br>Residential 6<br>Residential 7 | 62,163 | 40,405.95 | 15 | - | - | - | - | - | - |
| **Common Public Area** | | | | | | | | | |
| Club House | 3,000 | | | | | | | | |
| Basement Car Parking | 31,000 | | | | | | | | |
| **Total** | **117,963** | **54,575.95** | | | | | **212,550** | **212,550** | **212,550** |

Thu Kha Yadanar Co.,Ltd

နောက်ဆက်တွဲ-( ၈ )

## Development Schedule

| No. | Description | Gross Floor Area ( sqm ) | Non Gross Floor Countable Area (sqm) | Construction Period |
|---|---|---|---|---|
| **1** | **Phase 1** | | | |
| | 12.5 Storey Residential (2) Nos | 21,800.00 | | Year 2016 to 2019 |
| | 2 Storey Club House (1) No | | 3,000.00 | |
| | Basement Car Parking | | 8,089.00 | |
| **2** | **Phase 2** | | | |
| | 12.5 Storey Residential (5) Nos | 62,163.00 | | Year 2019 to 2022 |
| | Basement Car Parking | | 22,911.00 | |
| | **Total** | **83,963** | **34,000.00** | |

နောက်ဆက်တွဲ-( ဃ )

# KHA YAY RESIDENCE

## AT MIN YE KYAW ZWA ROAD

SITE AREA = 20094 m²

**Thu Kha Yadanar Co., Ltd.**
*- Makes Myanmar More Beautiful*

WONG & TUNG INTERNATIONAL LIMITED
ARCHITECTS & PLANNERS

MAR 2016

# SITE SURROUNDINGS



YANGON REGIONAL PARLIAMENT



TAW WIN CENTER



MIN YE KYAW ZWA ROAD



NEW YANGON GENERAL HOSPITAL









Planning regulation of Dagon Township restricts building height below the base of the Shwedagon Pagoda (190ft AMSL or 57.91m)




## DEVELOPMENT SCHEDULE SUMMARY

Site Area: 20,094.07m$^2$
Plot ratio:, 4.33
No. of Units : 621
No. of Residential Towers: 7
No. of Parking Spaces: 746
Total Gross Floor Area 86,963m$^2$ / 936,062ft$^2$
Site Coverage: 49%

### AREA BY TYPE

| | |
|---|---|
| Residential (GFA): | 83,963m$^2$ / 903,770ft$^2$ |
| Clubhouse (GFA): | 3,000m$^2$ / 32,292ft$^2$ |
| Basement Carpark/MEP: | 31,000m$^2$ / 333,681ft$^2$ |

20 = NO. OF STOREYS









## R1&2 AREA SCHEDULE

| unit | | NFA | | GFA | |
|---|---|---|---|---|---|
| | | m² | ft² | m² | ft² |
| A | 2BR | 98.52 | 1,060.48 | 128.02 | 1,377.96 |
| B | 2BR | 86.07 | 926.43 | 111.84 | 1,203.78 |
| C | 2BR | 85.54 | 920.78 | 111.15 | 1,196.44 |
| D | 3BR (en) | 143.76 | 1,547.37 | 186.79 | 2,010.62 |
| E | 3BR (en) | 143.76 | 1,547.37 | 186.79 | 2,010.62 |
| F | 2BR | 85.52 | 920.56 | 111.13 | 1,196.15 |
| G | 2BR(en) | 98.92 | 1,064.77 | 128.53 | 1,383.54 |
| H | 2BR(en) | 103.46 | 1,113.60 | 134.43 | 1,446.98 |
| J | 3BR (en) + M | 163.14 | 1,756.01 | 211.98 | 2,281.71 |
| K | 2BR(en) | 108.96 | 1,172.82 | 141.58 | 1,523.93 |
| L | 1BR | 74.75 | 804.60 | 97.13 | 1,045.47 |
| M | 2BR | 85.02 | 915.13 | 110.47 | 1,189.10 |
| N | 2BR | 86.55 | 931.63 | 112.46 | 1,210.54 |
| TOTAL | | 1,363.96 | 14,681.53 | 1,772.30 | 19,076.84 |
| efficiency | | 76.96% | | | |




R1/R2 TOWER
GFA = 21,800m²
NFA = 16,777m²

Scale 1:300



# R1 & R2 TYPICAL PLAN












R3 TOWER
GFA = 10,136m²
NFA = 8,615m²

R4 TOWER
GFA = 10,136m²
NFA = 8,615m²

Scale 1:300

**R3/R4 AREA SCHEDULE**

| unit | | NFA | | GFA | |
|---|---|---|---|---|---|
| | | m² | ft² | m² | ft² |
| A | 2BR (en) | 103.51 | 1,114.16 | 121.78 | 1,310.78 |
| B | 1BR | 69.17 | 744.58 | 81.38 | 875.98 |
| C | 1BR | 69.17 | 744.58 | 81.38 | 875.98 |
| D | 2BR (en) | 103.72 | 1,116.42 | 122.02 | 1,313.44 |
| E | 2BR (en) | 104.96 | 1,129.76 | 123.48 | 1,329.13 |
| F | 1BR | 68.23 | 734.41 | 80.27 | 864.01 |
| G | 1BR | 68.23 | 734.41 | 80.27 | 864.01 |
| H | 2BR (en) | 104.96 | 1,129.76 | 123.48 | 1,329.13 |
| **TOTAL** | | **691.95** | **7,448.08** | **814.06** | **8,762.45** |
| efficiency | | 85.00% | | | |



















## R5 AREA SCHEDULE

| unit | | NFA | | GFA | |
|---|---|---|---|---|---|
| | | $m^2$ | $ft^2$ | $m^2$ | $ft^2$ |
| A | 2BR (en) | 105.63 | 1,136.99 | 123.95 | 1,334.18 |
| B | 1BR | 68.45 | 736.78 | 80.32 | 864.57 |
| C | 1BR | 68.45 | 736.78 | 80.32 | 864.57 |
| D | 2BR (en) | 105.29 | 1,133.37 | 123.56 | 1,329.94 |
| E | 2BR (en) | 106.48 | 1,146.15 | 124.95 | 1,344.93 |
| F | 2BR (en) | 106.19 | 1,142.98 | 124.60 | 1,341.21 |
| G | 1BR | 69.80 | 751.36 | 81.91 | 881.67 |
| H | 2BR (en) | 104.77 | 1,127.72 | 122.94 | 1,323.31 |
| **TOTAL** | | **735.06** | **7,912.14** | **862.55** | **9,284.38** |
| efficiency | | 85.22% | | | |




R5 TOWER
GFA = 10,700$m^2$
NFA = 9,118$m^2$

Scale 1:300





















R6 TOWER
GFA = 21,179m²
NFA = 17,422m²

Scale 1:300

## R6 AREA SCHEDULE

| unit | | NFA | | GFA | |
|---|---|---|---|---|---|
| | | m² | ft² | m² | ft² |
| A | 3BR (en) | 146.91 | 1,581.28 | 178.59 | 1,922.29 |
| B | 3BR (en) | 146.91 | 1,581.28 | 178.59 | 1,922.29 |
| C | 2BR | 91.47 | 984.53 | 111.19 | 1,196.85 |
| D | 3BR (en) + M | 142.53 | 1,534.15 | 173.26 | 1,865.00 |
| E | 3BR (en) | 148.45 | 1,597.89 | 180.46 | 1,942.49 |
| F | 3BR (en) | 121.15 | 1,304.04 | 147.28 | 1,585.26 |
| G | 2BR | 85.48 | 920.10 | 103.92 | 1,118.53 |
| H | 2BR | 88.78 | 955.59 | 107.92 | 1,161.67 |
| J | 2BR | 89.39 | 962.15 | 108.66 | 1,169.64 |
| K | 3BR (en) + M | 151.49 | 1,630.67 | 184.16 | 1,982.33 |
| L | 2BR (en) | 105.30 | 1,133.49 | 128.01 | 1,377.93 |
| M | 2BR | 94.64 | 1,018.66 | 115.05 | 1,238.34 |
| **TOTAL** | | **1,412.48** | **15,203.80** | **1,717.09** | **18,482.62** |
| efficiency | | 82.26% | | | |












## R7 AREA SCHEDULE

| unit | | NFA | | GFA | |
|---|---|---|---|---|---|
| | | $m^2$ | $ft^2$ | $m^2$ | $ft^2$ |
| A | 2BR (en) | 103.64 | 1,115.52 | 127.43 | 1,371.59 |
| B | 1BR | 67.35 | 724.92 | 82.81 | 891.33 |
| C | 1BR | 70.85 | 762.67 | 87.12 | 937.74 |
| D | 1BR | 70.86 | 762.78 | 87.13 | 937.88 |
| E | 1BR | 67.34 | 724.80 | 82.79 | 891.19 |
| F | 2BR (en) | 103.58 | 1,114.95 | 127.36 | 1,370.90 |
| G | 1BR | 69.04 | 743.11 | 84.89 | 913.70 |
| H | 2BR (en) | 103.34 | 1,112.35 | 127.06 | 1,367.70 |
| **TOTAL** | | **656.00** | **7,061.10** | **806.59** | **8,682.03** |
| efficiency | | 81.33% | | | |

R7 TOWER
GFA = 10,012$m^2$
NFA = 8,143$m^2$

Scale 1:300

ပုံစံ (မနသ-၂)
စာအမှတ် ၄၃၇-၄
ရက်စွဲ ၁၆.၃.၂၀၁၆

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၁၃၉ / ၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ မတ် လ ၁၆ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏ အမည်** ဦးသောင်းထိုက်မင်း

(ခ) **အဘ အမည်** ဦးကျော်လွင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၉ / မထလ (နိုင်) ဝဝ၁၉၃ဝ

(ဃ) **နေရပ်လိပ်စာ** အမှတ်(၆၂-အီး)၊ ရွှေဟသာလမ်း၊ (၁၁)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** THU KHA YADANAR COMPANY LIMITED (သုခရတနာကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ Residence (၇) လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ မြေတိုင်းရပ်ကွက် အမှတ်(၂၀ အေ၊ ၄၆-ဘီ)၊ မြေကွက်အမှတ်(၈၊ ၈-A/၂ ၊ ၂/၂-၂၊၂/၂-၃) ၊ အမှတ်(၂၉)၊ စိန်ဂျွန်းအုပ်စု သိုလှောင်ရုံဝင်းရှိ မြေ(၄.၉၈)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၈၂၈၉၆.၀၀ သန်း( အမေရိကန်ဒေါ်လာ ၅၄.၁၉ သန်း အပါအဝင် စုစုပေါင်း ကျပ် ရှစ်သောင်းနှစ်ထောင်ရှစ်ရာ ကိုးဆယ့်ခြောက်သန်း တိတိ )

(ဈ) **တည်ဆောက်မှုကာလ** ၆ နှစ်

(ည) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ၅၀ နှစ်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၂၅ /၂၀၁၆ (မနသ)

၂၀၁၆ ခုနှစ် မတ် လ ၁၆ ရက်

၁။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်)သည် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၂၀ အေ၊ ၄၆-ဘီ)၊ မြေကွက် (၈၊ ၈-A/၂ ၊ ၂/၂-၂၊ ၂/၂-၃)၊ အမှတ်(၂၉)၊ စိန်ဂျွန်း အုပ်စုသိုလှောင်ရုံဝင်းအတွင်းရှိ မြေဧရိယာ(၄.၉၈)ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ Residence (၇) လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီရင်းနှီးမြှုပ်နှံသူ ဦးသောင်းထိုက်မင်းမှ ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊ မတ် လ ၄ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏ (၈/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုမိန့်ထုတ်ပေးရန် ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်)အား B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ Residence (၇) လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၁၃၉/၂၀၁၆ကို ထုတ်ပေးလိုက်သည်။

၂။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်)အနေဖြင့် ဤ ခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်-

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ၂၀(ဂ)အရ လုပ်ငန်းမှရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန် တကယ်အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန် အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်းစက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလ ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေ ငှားရမ်းခြင်း သက်တမ်းကာလမှာ ကနဦးနှစ် (၅၀)နှင့် သက်တမ်းတိုး မြှင့်မည့်ကာလမှာ (၁၀)နှစ် သက်တမ်း(၂)ကြိမ်ဖြစ်သည်။ ထိုသို့ စာချုပ်သက်တမ်းကာလ တိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက် ရရှိပြီးမှသာ အတည်ဖြစ်သည်။

၇။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် မြေအသုံးချမှုပရီမီယံကြေးအဖြစ် မြေဧရိယာ တစ်ဧကလျှင် အမေရိကန်ဒေါ်လာ ၂.၀၀ သန်းနှုန်းဖြင့် မြေဧရိယာ ၄.၉၈ ဧကအတွက် စုစုပေါင်း အမေရိကန်ဒေါ်လာ ၉.၉၆ သန်း အား အောက်ပါအတိုင်း ၄ ကြိမ်ခွဲ၍ ပေးသွင်းရမည် -

(က) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား စာချုပ်လက်မှတ်ရေးထိုးပြီး ၁၈ လ အတွင်း

(ခ) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား ပထမအရစ် ပေးချေသည့်နေ့မှ ၈ လ အတွင်း

(ဂ) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား ပထမအရစ် ပေးချေသည့်နေ့မှ ၁၆ လ အတွင်း

(ဃ) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား ပထမအရစ် ပေးချေသည့်နေ့မှ ၂၄ လ အတွင်း

၈။ နှစ်စဉ် မြေငှားရမ်းခအား ၁ နှစ်လျှင် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၁၅ နှုန်းဖြင့် စုစုပေါင်းကြမ်းခင်းဧရိယာ၏ ၆၅ % ကို ငှားရမ်းနိုင်သော ဧရိယာအဖြစ် သတ်မှတ်၍ ပေးချေရမည်။

၉။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနနှင့် Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) တို့ B.O.T စနစ်ဖြင့် မြေ ငှားရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ (၅)စောင်စီကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၁။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်)သည် လုပ်ငန်း ဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့် ကိုက်ညီစေရေးအတွက် လည်းကောင်း၊ သက်ဆိုင်ရာ ဥပဒေ များ ပြဋ္ဌာန်းပေါ်ပေါက်လာသည့်အခါ အဆိုပါ ဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများ နှင့် ကိုက်ညီစေရန် လည်းကောင်း လိုက်နာဆောင်ရွက်ရမည်။

၁၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် အဆောက်အဦအတွက် အမှန်တကယ် လိုအပ်သော ဆောက်လုပ်ရေး လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပမှ တင်သွင်းသည့်အခါ ပစ္စည်းအမျိုးအစားနှင့် အရေအတွက်ကို BQ တွင် ဖော်ပြထားသည့် အတိုင်း မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ လမ်းညွှန်ချက်နှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

၁၃။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေ ရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA )၊ ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှုအခြေအနေကို ကော်မရှင်နှင့်ပတ်ဝန်းကျင်ထိန်းသိမ်း ရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၁၄။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၀)၊ ပုဒ်မ ၁၉(ဂ)ပါ သတ်မှတ်ချက်နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန ၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၅။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှုလုပ်ငန်း၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင် ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များ နှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၆။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေးအစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဆိုင်ရာနည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၈။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကိုရယူရမည်။

၁၉။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

၂၀။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကမျှပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့်ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ

ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၁။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)

ဥက္ကဋ္ဌ

စာအမှတ်၊ရကာ-၄ /မ-၁၅၃၄/ ၂၀၁၆( ၄၃၀-င )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၆ ရက်

**ဖြန့်ဝေခြင်း-**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

၇

အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရန်ကုန်မြို့

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

မန်နေဂျင်းဒါရိုက်တာ၊ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်)

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ် လ ၉ ရက်

အကြောင်းအရာ။ **Thu Kha Yadanar Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂွမ်းအုပ်စုသိုလှောင်ရုံရှိ မြေ(၄.၉၈)ဧက တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ Residence (၇)လုံးနှင့် Club House Building (၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်း ကိစ္စ**

MC-369
10/3

၁။ Thu Kha Yadanar Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊အမှတ်(၂၉)၊ စိန်ဂွမ်းအုပ်စုသိုလှောင်ရုံရှိ မြေ(၄.၉၈)ဧက တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ Residence (၇)လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊ မတ် လ ၄ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၈/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ဥက္ကဋ္ဌ မှ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာ ဆက်စပ်လျက် ရှိသော Thu Kha Yadanar Co., Ltd. နှင့် Adventure Myanmar Tours & Incentives Co., Ltd. တို့မှ ကုမ္ပဏီ (၂)ခုပေါင်း လုပ်ငန်းများ လုပ်ဆောင်မည့် Layout Plan Design ကို တင်ပြရန် လမ်းညွှန်မှုပြုခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေးဆုံးဖြတ်ချက်အရ Thu Kha Yadanar Co., Ltd. နှင့် Adventure Myanmar Tours & Incentives Co., Ltd. တို့မှ Designer များ ပူးပေါင်း၍ ဟန်ချက်ညီအောင် ရေးဆွဲထားသော Layout Plan Design အား တင်ပြလာပါသဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၉)၊ ပုဒ်မ ၁၈(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Thu Kha Yadanar Co., Ltd. မှ နိုင်ငံတကာအဆင့်မီ Residence (၇)လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရန်သက်ဆိုင်ရာရင်းနှီးမြှုပ်နှံသူသို့ထုတ်ပေးမည့် ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာ (စာချော) တို့တွင် ဥက္ကဋ္ဌမှ လက်မှတ်ရေးထိုးပေးနိုင်ပါရန် တင်ပြ အပ်ပါသည်။

(အောင်နိုင်ဦး)
အတွင်းရေးမှူး

ဥက္ကဋ္ဌ

(Adventure Myanmar ၏ Proposal လာတော့ Present လုပ် ခိုင်းတွင်း Thu Ka Yadanar ကိုပါတက်တော့ မေးဖြန့်ခိုင်းလေးပါ။)

| | ဆုံးဖြတ်ချက်များ | ဆောင်ရွက်ရန် |
|---|---|---|
| | ပလတ်စတစ်စက်ရုံ (ရန်ကုန်)တွင် နိုင်ငံတကာ အဆင့်မီ Plastic Shopping Bag အမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းနှင့်စပ်လျဉ်း၍ ရတနာသိဂီကုမ္ပဏီသို့ ငှားရမ်းထားသည့် မြေ ၀.၇၅၆ဧကအား ချန်လှပ် ၍ ပြန်လည်ပြင်ဆင်တင်ပြရန်။ | |
| | (၂) စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင်၊ အမှတ် (၁) ပလတ်စတစ် စက်ရုံ(ရန်ကုန်)၏ စက်ရုံခွဲ (မှော်ဘီ) တွင် နိုင်ငံတကာ အဆင့်မီ Plastic Shopping Bag အမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း နှင့်စပ်လျဉ်း၍ ယခင်ရှိသပ်ဆင်ထားသည့် စက်ပစ္စည်းများနှင့် ထပ်မံ တင်သွင်းမည့် စက်ပစ္စည်းစာရင်းကို ပြုစု၍ ပြန်လည် တင်ပြရန်။ | |
| | (၃) စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင်၊ အမှတ်(၁) ပလတ်စတစ်စက်ရုံ (ရန်ကုန်)၏ စက်ရုံခွဲ (မရမ်းကုန်း) တွင် PVC Pipe အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းတို့နှင့် စပ်လျဉ်း၍ ရင်းနှီးမြှုပ်နှံမှု ပမာဏ နည်းပါးခြင်း၊ လူနေရပ်ကွက်အတွင်း တည်ရှိသဖြင့် ကွင်းဆင်း စစ်ဆေးပြီးမှသာ ပြန်လည်တင်ပြရန်။ | |
| (စ) | Thu Kha Yadanar Co., Ltd.မှ B.O.T စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံးနှင့် Club House Building (၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် တင်ပြခြင်းနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မည့် မြေနေရာနှင့် ဆက်စပ်မှုရှိသော Thu Kha Yadanar Co., Ltd.နှင့် Adventure Myanmar Tours & Incentive ကုမ္ပဏီနှစ်ခုတို့မှ ဆောင်ရွက်မည့် Layout Plan Design တင်ပြစေပါက ခွင့်ပြုမိန့်ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (ဆ) | Ayeyarwaddy Development Public Co., Ltd. မှ | မြန်မာနိုင်ငံ |

တန်သတ်

**THU KHA YADANAR COMPANY LIMITED.**
Room (B), Business Center, City Golf Resort Hotel, Thirimingalar Road,
Ywarma, Insein, Yangon.
Phone 95-1-641763~7 Fax : 95-1-641701

သို့

အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

စာအမှတ် ။ ။ 08 / TKY / 2016.
ရက်စွဲ ။ ။ ၂၀၁၆–ခုနှစ်၊ မတ်လ ( ၉ )ရက်။

အကြောင်းအရာ ။ ။ **Project (၂)ခုပေါင်း Layout Plan Design အား တင်ပြခြင်း။**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ အမှတ်(၂၉)၊ မင်းရဲကျော်စွာလမ်း၊ ကက၁(၁)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံ ဝင်းအတွင်းရှိ မြေဧရိယာ(၉.၉၆)ကေပေါ်တွင် ကျွန်တော်များ Thu Kha Yadanar Co.,Ltd မှ မြေ(၄.၉၈)ကေနှင့် Adventure Myanmar Tours & Incentives Co.,Ltd မှ မြေ(၄.၉၈)ကေဟူ၍ ကုမ္ပဏီ(၂)ခု လုပ်ငန်းလုပ်ဆောင်ခွင့် ရရှိခဲ့ပါသည်။

၂။ ကျွန်တော်များ Thu Kha Yadanar Co.,Ltd အနေဖြင့် ဖော်ပြပါလိပ်စာရှိ မြေ(၄.၉၈)ကေပေါ်တွင် ဆောင်ရွက်မည့် လုပ်ငန်းစဉ်များကို (၄.၃.၂၀၁၆)ရက်နေ့တွင် ပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးတွင် ရှင်းလင်းတင်ပြခဲ့ပါသည်။ အဆိုပါအစည်းအဝေးတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ဥက္ကဋ္ဌမှ ကုမ္ပဏီ(၂)ခုပေါင်း လုပ်ငန်းများ လုပ်ဆောင်မည့် Layout Plan Design ကို တင်ပြရန် လမ်းညွှန်မှုပြုခဲ့ပါသဖြင့် ပူးတွဲပါ Layout Plan Design အား ပေးပို့တင်ပြအပ်ပါသည်။

၃။ ကျွန်တော်များ ရေးဆွဲတင်ပြထားသော Layout Plan Design သည် Thu Kha Yadanar Co.,Ltd နှင့် Adventure Myanmar Tours & Incentives Co.,Ltd တို့မှ Designer များ ပူးပေါင်း၍ ဟန်ချက်ညီအောင် ရေးဆွဲထားသော Layout Plan Design ဖြစ်ပါသည်။ ထပ်မံလိုအပ်ချက်များရှိပါက ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီနှင့် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း တို့၏ လမ်းညွှန်ချက်များအတိုင်း ညှိနှိုင်းဆောင်ရွက်သွားပါမည်ဟု တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

U THAUNG HTIKE MIN
MANAGING DIRECTOR
THU KHA YADANAR CO., LTD.

မိတ္တူကို
– ရုံးလက်ခံ။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
နေပြည်တော်

စာအမှတ် ၊ နပတ/(မြို့/ရာ)/မဒဖ/၂၀၁၆( ၂၅၅ )
ရက် စွဲ ၊ ၂၀၁၆ခုနှစ်၊ မတ်လ ၃ ရက်

7013-494
8/3

အကြောင်းအရာ။ **Thu Kha Yadanar Co., Ltd နှင့် Adventure Myanmar Tours & Incentives Co., Ltd တို့မှ တင်ပြသည့် ဒီဇိုင်းပုံစံများအပေါ် သဘောထားမှတ်ချက်များ ပေးပို့ခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ခုနှစ်၊ ဇန်နဝါရီလ(၅)ရက်စွဲပါ စာအမှတ် ၇က-၄/ မ - ထွေ/၂၀၁၆(၀၀၃)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနပိုင်ဖြစ်သည့် နိုင်ငံတော်ပိုင်မြေ (၉.၉၆)ဧကအား Thu Kha Yadanar Co., Ltd နှင့် Adventure Myanmar Tours & Incentives Co., Ltd တို့ထံသို့ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်ရန်အတွက် မြေငှားရမ်းစာချုပ် ချုပ်ဆိုဆောင်ရွက်နိုင်ရေး ညှိနှိုင်းဆောင်ရွက်ရန် ဆောက်လုပ်ရေးဝန်ကြီးဌာနသို့ အကြောင်းကြားခဲ့ပါသည်။

၂။ သို့ဖြစ်ရာ ဖော်ပြပါ ကုမ္ပဏီများမှ လမ်းမတော်မြို့နယ်၊ အမှတ်(၂၉)၊ မင်းရဲကျော်စွာလမ်းရှိ မြေ၌ Thu Kha Yadanar Co., Ltd မှ (၄.၉၈)ဧက မြေတွင် ကုမ္ပဏီမှဆောင်ရွက်မည့် Residential Development အဆိုပြုပုံစံကိုလည်းကောင်း၊ Adventure Myanmar Tours & Incentives Co., Ltd မှ (၄.၉၈)ဧကတွင် ကုမ္ပဏီမှ ဆောင်ရွက်မည့် Pyay Road Project (Mixed Use Urban Development ) အဆိုပြုပုံစံကိုလည်းကောင်း၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနသို့ တင်ပြလာပါသည်။

**ကုမ္ပဏီ(၂)ခု၏ စီမံကိန်းပုံစံတင်ပြချက်များ**

၃။ **Adventure Myanmar ကုမ္ပဏီ**၏ Pyay Road Project သည် ခရေပင်လမ်းပေါ်တွင်တည်ရှိပြီး ရွှေတိဂုံဘုရားပတ်ဝန်းကျင် ဇုန်သတ်မှတ်ချက်အရ အမြင့် MSL (၁၉၀ ပေ) ထက်မကျော်လွန်သည့် (၁၀)ထပ်အမြင့် ဟိုတယ်နှင့် Ball Room Office နှင့် Service Apartment (၁၂)ထပ် တွဲလျက်ပါရှိ သော အဆောက်အဦကြီး (၁)လုံးနှင့် (၄)ခန်းတွဲ (၁၂)ထပ် လူနေ Apartment (၃)လုံးဖြင့် Site Plan တွင် ဖွဲ့စည်းပါဝင်ပါသည်။ အဆောက်အဦများသည် Basement (၃)လွှာနှင့် မြေပေါ်တွင် (၁၀)ထပ်နှင့် (၁၂)ထပ်အမြင့်ရှိပါသည်။ ပုံစံပါ ဖော်ပြချက်အရ Building Coverage Ratio (၄၈ %) နှင့် Floor Area Ratio (၃.၇ %) ဟု ပါရှိပါသည်။ Mixed Use Development ဖြစ်ပြီး ဟိုတယ်အခန်း(၄၀)ခန်း၊ ရုံးခန်း(၈၃၄၁ စတုရန်းမီတာ) ၊ Service Apartment (၆၉)ခန်း၊ လူနေတိုက်ခန်းပေါင်း(၁၀၈)ခန်းနှင့် ကားပါကင်စုစုပေါင်း(၆၂၅)စီး ပါဝင်ပါသည်။

၄။ **Thu Kha Yadanar ကုမ္ပဏီ၏** Residential Develpoment Project သည် Adventure Myanmar ကုမ္ပဏီ၏ စီမံကိန်းနှင့် ကပ်လျက်အရှေ့ဘက်တွင်တည်ရှိပြီး မင်းရဲကျော်စွာလမ်းမှ ဝင်ပေါက်(၂)ပေါက်နှင့် မီးရထားလမ်းနှင့်အပြိုင် ခရေပင်လမ်းမှ (၂၀)ပေအကျယ်လမ်း ဝင်ပေါက်တို့ ရှိပါသည်။ စီမံကိန်းပုံစံတွင် ဖော်ပြချက်အရ FAR (၄.၈၁) ၊ BCR (55 %)နှင့် အမြင့်ပေ MSL (၁၈၉.၃ ပေ) ရှိပါသည်။ လူနေအဆောက်အဦ (၇)လုံးတွင် အိမ်ခန်းယူနစ်ပေါင်း(၇၃၃)ခန်း ပါဝင်ဖွဲ့စည်းထားပြီး Basement (၂)လွှာတွင် ကားပါကင်(၈၈၀)စီးအတွက် ပါဝင်ကြောင်း ပုံစံတွင် ဖော်ပြထားပါသည်။

၅။ အဆိုပါကုမ္ပဏီ (၂)ခုမှ တင်ပြလာသည့် စီမံကိန်းပုံစံများနှင့် စပ်လျဉ်း၍ မြို့ပြစီမံကိန်းရှုထောင့်အရ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနမှ ချမှတ်ထားသည့် Urban Planning Guidelines များနှင့် ညီညွတ်မှုရှိစေရန်နှင့် မြို့ပြဖွဲ့စည်းမှုအရလည်းကောင်း၊ ဝင်ထွက်သွားလာရေးနှင့် ဆက်သွယ်မှုကောင်းမွန်စေရန်လည်းကောင်း၊ မြို့ပြပတ်ဝန်းကျင်အား ထိခိုက်မှုအနည်းဆုံးနှင့် အကျိုးရလာဒ်အများဆုံး ရရှိစေရန် ရည်ရွယ်၍ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ပါရန် သဘောထားမှတ်ချက်ကို နောက်ဆက်တွဲဖြင့် ဖော်ပြအပ်ပါသည်။

၆။ မြို့ပြစီမံကိန်းဆိုင်ရာ လမ်းညွှန်ချက်နှင့် သဘောထားမှတ်ချက်များနှင့်အညီ စီမံကိန်းပုံစံများကို ပြင်ဆင်ရေးဆွဲ၍ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနနှင့် စီမံကိန်းစာချုပ် ချုပ်ဆိုရာလည်းကောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုချက်တင်ပြရာတွင်လည်းကောင်းပူးတွဲတင်ပြဆောင်ရွက်သွားရန်လည်း အကြောင်းကြားအပ်ပါသည်။

2/3.2016

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(အေးအေးမြင့် - ညွှန်ကြားရေးမှူး)

Managing Director
Adventure Myanmar Co.,Ltd

Managing Director
Thu Kha Yanadar Co.,Ltd

မိတ္တူကို
- ပြည်ထောင်စုဝန်ကြီးရုံး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊
- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
- ရုံးလက်ခံ၊
- မျှောစာတွဲ။

## Adventure Myanmar Co., Ltd နှင့် Thu KhaYadanarCo., Ltdတို့၏ စီမံကိန်းပုံစံတင်ပြချက်များအပေါ် တွေ့ရှိချက်နှင့် သဘောထားမှတ်ချက်

### Adventure Myanmar Co., Ltd ၏ စီမံကိန်းပုံစံ

၁။ Adventure Myanmar ၏ Pyay Road Project သည် အဆောက်အဦ အသုံးပြုမှု၊ BCR၊ FAR နှင့် အဆောက်အဦအမြင့် ကန့်သတ်ချက်များ သတ်မှတ်ချက်နှင့်အညီ မူဘောင်ဝင်ကြောင်း တွေ့ရှိရပါသည်။ သို့သော် စီမံကိန်းမြေ၏ မြောက်ဘက်ကပ်လျက်ရှိသော လမ်း (မင်းရဲကျော်စွာမှ သုခရတနာကုမ္ပဏီ၏ Residential Development Project သို့အဝင်လမ်း) သည် (၂၀ ပေ)သာ ကျယ်ပြီး အဆိုပါလမ်းများ၏ ဘေးတွင် လုံလောက်သည့် Set-back မပေးဘဲ အဆောက်အဦ အထပ်အမြင့်များကို ကပ်လျက်တည်ဆောက်မည့် ပုံစံကို တင်ပြထားပါသည်။ မင်းရဲကျော်စွာလမ်းမမှ ဟိုတယ်အဆောက်အဦနှင့် Service Apartment အဆောက်အဦ ဒေါင့်စွန်းများသို့ အကွာအဝေးသည် အဆောက်အဦ၏ Basement များသို့ ဝင်ထွက်မည့် လမ်းများနှင့် နီးကပ်စွာရှိနေသည့်အတွက် ယာဉ်အသွားအလာကြပ်တည်းပြီး Traffic တွင် ပိတ်ဆို့မှုများ ဖြစ်နိုင်ကြောင်း တွေ့ရှိရပါသည်။

၂။ သို့ဖြစ်ပါ၍ အဆိုပြု စီမံကိန်းပုံစံနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ Urban Planning Guideline များနှင့်အညီ ဆောင်ရွက်ပါရန် မှတ်ချက်ပြုပါသည်။

(က) မီးရထားလမ်းနှင့် စီမံကိန်းအဆောက်အဦကြား အကွာအဝေးမှာ (၇၅ ပေ) ရှိရပါမည်။ ခရေပင်လမ်းမှ အဝင်လမ်း(၂၀ ပေ)သည် အတွင်းဘက်ရှိ သုခရတနာကုမ္ပဏီ စီမံကိန်းသို့ ဝင်/ ထွက် ပေါက်ပေးရန် ကျဉ်းမြောင်းနေပါသဖြင့် အဆိုပါ လမ်းနယ်နိမိတ်မှ Set - back (၂၀ ပေ)ချန်လှပ်၍ စီမံကိန်းပါ အဆောက်အဦများ စတင်တည်ဆောက်ရန် လိုအပ်ပါသည်။ (နမူနာအားဖြင့်- လမ်းနယ်ကိုလည်း(၃၀ ပေ) အကျယ် သတ်မှတ်၍ ကျန်မြေကို Green Area အဖြစ် သတ်မှတ်ပေးနိုင်ပါသည်။)

(ခ) မင်းရဲကျော်စွာလမ်း၏ ROW မှ ဟိုတယ်နှင့် Service Apartment အဆောက်အဦ ဒေါင့်စွန်းများသို့ အကွာအဝေး(၂၀ ပေ) အနည်းဆုံး ချန်လှပ်ပေးရပါမည်။

(ဂ) Apartment Building (5, 6, 7) သို့ ဝင်/ ထွက်လမ်းများသည် အရေးပေါ် အခြေအနေတွင် မီးသတ်ကားဝင်နိုင်ရန် လုံလောက်သော အကျယ်အဝန်းနှင့် လမ်းဖွဲ့စည်းမှုများပါရှိရပါမည်။ ရေစီးရေလာကောင်းမွန်စေရန် ရေမြောင်းစနစ်၊ ရေဆိုးသန့်စင်စနစ်၊ အမှိုက်သိမ်းဆည်းစွန့်ပစ်စနစ်၊ လျှပ်စစ်ဓါတ်အား လိုအပ်ချက်အတွက် ဓါတ်အားခွဲရုံမြေနေရာစသည့် Utility Services များကို စနစ်တကျပြည့်စုံစွာ ထည့်သွင်းဆောင်ရွက်ရန်နှင့် လိုအပ်သည့် မြေနေရာများ သတ်မှတ်ပေးပြီး စံချိန်စံညွှန်းနှင့်အညီ ထည့်သွင်းတည်ဆောက်ရပါမည်။

(ဃ) စီမံကိန်းဧရိယာတွင် impervious area ၁၀% ထားရှိပြီး Green Plantation အဖြစ် အသုံးပြုနိုင်ပါသည်။

**Thu Kha Yadanar ကုမ္ပဏီ၏ စီမံကိန်းပုံစံ**

၁။ Thu Kha Yadanar ၏ Residential Project သည် လူနေသီးသန့် စီမံကိန်းဖြစ်ပါသည်။ တင်ပြသည့်ပုံစံအရ အမြင့်သတ်မှတ်ချက်များမှာ ခွင့်ပြုသည့် ဘောင်အတွင်းရှိပါသည်။ သို့သော် Building Coverage Ratio မှာ 55% ရှိနေပြီး ခွင့်ပြုနိုင်သည့် BCR မှာ 50% (max) ဖြစ်သည့်အတွက် BCR လျှော့ချရန် လိုအပ်ပါသည်။ လူနေသီးသန့်ဧရိယာဖြစ်ပါက FAR သတ်မှတ်ချက်မှာ (၄.၅) ဖြစ်သဖြင့် စီမံကိန်းပုံစံပါ FAR ကို (၄.၈၁) မှ (၄.၅) သို့ လျှော့ချပေးရန် လိုအပ်ပါသည်။

၂။ အဆိုပြုစီမံကိန်းပုံစံနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ Urban Planning Guideline များနှင့် အညီ ဆောင်ရွက်ပါရန် မှတ်ချက်ပြုပါသည်။

(က) စီမံကိန်းတွင် အိမ်ခန်းယူနစ်ပေါင်း(၇၃၃)ခန်းပါရှိပြီး အိပ်ခန်း(၁)ခန်း၊ (၂)ခန်းနှင့် (၃)ခန်းပါ ယူနစ်များကို ရောစပ်ထားသည့်အတွက် ပျမ်းမျှလူနေထိုင်မှုကို တစ်ခန်းလျှင် (၄)ဦးနှုန်းနှင့် တွက်ချက်ပါက တစ်ဧကလျှင် လူဦးရေ(၅၈၈)ဦး နေထိုင်နိုင်မည်ဖြစ်ပါသည်။ အမြင့်ဆုံးခွင့်ပြုနိုင်သည့် လူဦးရေသိပ်သည်းမှု (Population Density) မှာ (၅၀၀ ဦး/ ဧက) ဖြစ်သဖြင့် ခွင့်ပြုနိုင်သည့် ပမာဏထက်ကျော်လွန်နေပါသည်။ လူနေကျပ်တည်းသိပ်သည်းမှု (Over Crowding) မဖြစ်စေရန် အထူး လိုအပ်ပါသဖြင့် BCR ကို လျှော့ချခြင်း၊ လူနေသိပ်သည်းမှုကို တစ်ဧကလျှင်(၃၀၀)ဦးမှ (၄၀၀)ဦးဖြင့် ဆောင်ရွက်ပေးခြင်းတို့ဖြင့် Quality Urban Environment ကို ရရှိစေပါမည်။

(ခ) Residential Tower ($R_1$, $R_2$, $R_3$) အဆောက်အဦများနှင့် စီမံကိန်းပရဝဏ်သည် မီးရထားလမ်းမှ (၇၅ ပေ) ခွာရပါမည်။ စီမံကိန်းဧရိယာအတွင်း ပတ်လမ်းကို လုံလောက်သည့် အကျယ်အဝန်း(18 ' min) ပေးရပါမည်။

(ဂ) အိမ်ရာစီမံကိန်းသို့ ဝင်/ ထွက်လမ်းများနှင့် စီမံကိန်းအတွင်းရှိ လမ်းများသည် အရေးပေါ် အခြေအနေတွင် မီးသတ်ကားဝင်နိုင်ရန် လုံလောက်သော အကျယ်အဝန်းနှင့် လမ်းဖွဲ့စည်းမှုများပါရှိရပါမည်။ ရေစီးရေလာကောင်းမွန်စေရန် ရေမြောင်းစနစ်၊ ရေဆိုးသန့်စင်စနစ်၊ အမှိုက်သိမ်းဆည်းစွန့်ပစ်စနစ်၊ လျှပ်စစ်ဓါတ်အား လိုအပ်ချက်အတွက် ဓါတ်အား ခွဲရုံမြေနေရာစသည့် Utility Services များကို စနစ်တကျပြည့်စုံစွာ ထည့်သွင်း ဆောင်ရွက်ရန်နှင့် လိုအပ်သည့် မြေနေရာများ သတ်မှတ်ပေးပြီး စံချိန်စံညွှန်းနှင့်အညီ ထည့်သွင်းတည်ဆောက်ရပါမည်။

(ဃ) စီမံကိန်းဧရိယာတွင် impervious area ၁၀% ထားရှိပြီး Green Plantation အဖြစ် အသုံးပြုနိုင်ပါသည်။

## Rent Schedule

| Building | Gross Floor Area ( sqm ) | Net Floor Area ( sqm ) 65% | Lease Rate US$/sqm/year | Construction Period | | | | | | Op |
|---|---|---|---|---|---|---|---|---|---|---|
| | | | | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 | Yea |
| **Phase 1** | | | | | | | | | | |
| sidential 1<br>sidential 2 | 21,800 | 14,170 | 15 | - | - | - | 212,550 | 212,550 | 212,550 | |
| **Phase 2** | | | | | | | | | | |
| sidential 3<br>sidential 4<br>sidential 5<br>sidential 6<br>sidential 7 | 62,163 | 40,405.95 | 15 | - | - | - | - | - | - | |
| **ommon Public Area** | | | | | | | | | | |
| ub House | 3,000 | | | | | | | | | |
| sement Car Parking | 31,000 | | | | | | | | | |
| **Total** | **117,963** | **54,575.95** | | | | | **212,550** | **212,550** | **212,550** | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့
ဖက်(စ်) ၀၁-၆၅၈၁၃၇
☎ ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/မ-ထွေ / ၂၀၁၆( ၈၀၃ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၅ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
ဆောက်လုပ်ရေးဝန်ကြီးဌာန

အကြောင်းအရာ ။ **အစားထိုး မြေနေရာနှင့်စပ်လျဥ်း၍ ညှိနှိုင်းဆောင်ရွက်ရန် အကြောင်းကြားခြင်း**

ရည်ညွှန်းချက် ။ (၁) နိုင်ငံတော်သမ္မတဦးစီးရုံး၏ (၁၇-၁၁-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ၆၉ (၂၃)/၁/သမ္မတရုံး

(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၄-၁၂-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၄/မ-ထွေ/၂၀၁၅(၉၄၅)

(၃) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၄-၁၂-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၄/မ-ထွေ/၂၀၁၅(၉၄၇)

၁။ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနမှ ပိုင်ဆိုင်သည့် လမ်းမတော်မြို့နယ်၊ အမှတ် (၂၉)၊ မင်းရဲကျော်စွာလမ်း၊ ကကခ(၁)၊ စိန်ဂျွန်းအုပ်စု သိုလှောင်ရုံ၊ မြန်မာ့လယ်ယာကုန် ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း၊ ကုန်သွယ်ရေးဝင်းအတွင်းရှိ စုစုပေါင်း မြေ(၁၁.၆၆)ဧကအနက် မှ ကျန်ရှိသည့် (၉.၉၆) ဧက အား Thu Kha Yadanar Co., Ltd. နှင့် Adventure Myanmar Tours & Incentives Co., Ltd. တို့ထံသို့ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် မြေ အညီအမျှ ခွဲဝေပေးနိုင်ရေး မြေ လွှဲပြောင်းခြင်းကိစ္စများ ဆောင်ရွက်ရန် ရည်ညွှန်းပါ စာများဖြင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများသို့ အကြောင်းကြားပြီး ဖြစ်ပါသည်။

၂။ အဆိုပါ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနပိုင်ဖြစ်သည့် မြေသည် နိုင်ငံတော်ပိုင် မြေဖြစ်သည့်အတွက် လုပ်ထုံးလုပ်နည်းနှင့်အညီ နိုင်ငံတော်သို့ အပ်နှံပြီးပါက ရင်းနှီးမြှုပ်နှံသူများဖြစ်သည့် Thu Kha Yadanar Co., Ltd. နှင့် Adventure Myanmar Tours & Incentives Co., Ltd. တို့နှင့် မြေ ငှားရမ်းခြင်း စာချုပ် ကိစ္စရပ်များ ဆောင်ရွက်နိုင်ရေး ညှိနှိုင်းဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို

နိုင်ငံတော်သမ္မတရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထောင်စုဝန်ကြီးရုံး
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်
ကုန်သွယ်မှုမြှင့်တင်ရေးနှင့်စားသုံးသူရေးရာဦးစီးဌာန

Thu Kha Yadanar Co., Ltd.

Adventure Myanmar Tours & Incentives Co., Ltd.

ရုံးလက်ခံ / မျှောစာတွဲ

အထွေထွေအရပ်ရပ်-၁၆

ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ် လ ၃ ရက်

အကြောင်းအရာ။ **Thu Kha Yadanar Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂျွန်းအုပ်စုသိုလှောင်ရုံရှိ မြေ(၄.၉၈)ဧက တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃) ခန်းပါ Residence (၇)လုံးနှင့် Club House Building (၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်အတွက် ဥပဒေရှုထောင့်မှ သုံးသပ်ပေးပါရန် တင်ပြခြင်း**

၁။ Thu Kha Yadanar Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၂၀ အေ, ၄၆-ဘီ)၊ မြေကွက် အမှတ်(၂၉)၊ စိန်ဂျွန်းအုပ်စုသိုလှောင်ရုံဝင်းအတွင်းရှိ မြေ(၄.၉၈)ဧက တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇) လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းအား လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးသောင်းထိုက်မင်းမှ အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊ မတ် လ ၄ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏(၈/၂၀၁၆)အစည်းအဝေးသို့ တင်ပြခဲ့ရာ လုပ်ငန်းဆောင်ရွက်ခွင့်ပြုခဲ့ပါသည်။

၂။ သို့ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အတွက် ထုတ်ပြန်မည့် ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာ(စာကြမ်း)တို့အား ဥပဒေရှုထောင့်မှ သုံးသပ်ပေးပါရန် တင်ပြအပ်ပါသည်။

(ဝင်းမို့မို့အေး)

ဦးစီးအရာရှိ

**လ/ထ-ညွှန်ကြားရေးမှူး**

၃။ MIC 8/2016 မှ ခွင့်ပြုခဲ့သော အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အတွက် ထုတ်ပြန်မည့် ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာ (စာကြမ်း) တို့အား ဥပဒေရှုထောင့်မှ စိစစ်ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

( သန်းသန်းဦး )

ဦး/ ညွှန်ကြားရေးမှူး

၄။

ပုံစံ (မနသ-၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၁၃၉ / ၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ မတ် လ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(
အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏ အမည်** ဦးသောင်းထိုက်မင်း

(ခ) **အဘ အမည်** ဦးကျော်လွင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၉ / မထလ (နိုင်) ၀၀၁၉၃၀

(ဃ) **နေရပ်လိပ်စာ** အမှတ်(၆၂-အီး)၊ ရွှေဟသ်ာလမ်း၊ (၁၁)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** THU KHA YADANAR COMPANY LIMITED (သုခရတနာကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇) လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့် အိမ်ရာ ဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း မြေတိုင်းရပ်ကွက် အမှတ်(၂၀ အေ, ၄၆-ဘီ)၊ မြေကွက် အမှတ်(၂၉)၊ စိန်ဂွန်းအုပ်စု သို့လှောင်ရုံဝင်းရှိ မြေ(၄.၉၈)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၈၄၀၀၀.၀၀ သန်း( အမေရိကန်ဒေါ်လာ ၄၇.၂၄ သန်း အပါအဝင် စုစုပေါင်း ကျပ် ရှစ်သောင်းလေးထောင်သန်း တိတိ )

(ဈ) **တည်ဆောက်မှုကာလ** ၆ နှစ်

(ည) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ၅၀ နှစ်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ /၂၀၁၆ (မနသ)

၂၀၁၆ ခုနှစ် မတ် လ ရက်

၁။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်)သည် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၂၀ အေ, ၄၆-ဘီ)၊ မြေကွက် အမှတ်(၂၉)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံဝင်းအတွင်းရှိ မြေ(၄.၉၈)ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇) လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ရင်းနှီးမြှုပ်နှံသူ ဦးသောင်းထိုက်မင်းမှ ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊ မတ် လ ၄ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏ (၈/၂၀၁၆)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုမိန့် ထုတ်ပေးရန် ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်)အား B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇) လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၁၁၃၉/၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်-

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ၂၀(ဂ)အရ လုပ်ငန်းမှရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန် တကယ်အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန် အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများ အတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလ ရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များ**ကို **အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေ ငှားရမ်းခြင်း သက်တမ်းကာလမှာ ကနဦးနှစ် (၅၀)နှင့် သက်တမ်းတိုး မြှင့်မည့်ကာလမှာ (၁၀)နှစ် သက်တမ်း(၂)ကြိမ်ဖြစ်သည်။ ထိုသို့ စာချုပ်သက်တမ်းကာလ တိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက် ရရှိပြီးမှသာ အတည်ဖြစ်သည်။

၇။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် Land Use Premium ကြေးအဖြစ် တစ်ဧကလျှင် အမေရိကန်ဒေါ်လာ ၂.၀၀ သန်းနှုန်းဖြင့် မြေ ၄.၉၈ ဧကအတွက် စုစုပေါင်း အမေရိကန်ဒေါ်လာ ၉.၉၆ သန်း အား အောက်ပါအတိုင်း ၄ ကြိမ်ခွဲ၍ ပေးသွင်းရမည် -

(၁) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား စာချုပ်လက်မှတ်ရေးထိုးပြီး ၁၈ လ အတွင်း

(၂) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား ပထမအရစ် ပေးချေသည့်နေ့မှ ၈ လ အတွင်း

(၃) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား ပထမအရစ် ပေးချေသည့်နေ့မှ ၁၆ လ အတွင်း

(၄) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား ပထမအရစ် ပေးချေသည့်နေ့မှ ၂၄ လ အတွင်း

၈။ နှစ်စဉ် မြေငှားရမ်းခအား ၁ နှစ်လျှင် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၁၅ နှုန်းဖြင့် စုစုပေါင်းကြမ်းခင်းဧရိယာ၏ ၆၅ % ကို ငှားရမ်းနိုင်သော ဧရိယာအဖြစ် သတ်မှတ်၍ ပေးချေရမည်။

၉။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနနှင့် Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) တို့ B.O.T စနစ်ဖြင့် မြေ ငှားရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ (၅)စောင်စီကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၁။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်)သည် လုပ်ငန်း ဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့် ကိုက်ညီစေရေးအတွက် လည်းကောင်း၊ သက်ဆိုင်ရာ ဥပဒေ များ ပြဋ္ဌာန်းပေါ်ပေါက်လာသည့်အခါ အဆိုပါ ဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများ နှင့် ကိုက်ညီစေရန် လည်းကောင်း လိုက်နာဆောင်ရွက်ရမည်။

၁၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် အဆောက်အဦအတွက် အမှန်တကယ် လိုအပ်သော ဆောက်လုပ်ရေး လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပမှ တင်သွင်းသည့်အခါ ပစ္စည်းအမျိုးအစားနှင့် အရေအတွက်ကို BQ တွင် ဖော်ပြထားသည့် အတိုင်း မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ လမ်းညွှန်ချက်နှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

၁၃။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေ ရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment- EIA )၊ ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှုအခြေအနေကို ကော်မရှင်နှင့်ပတ်ဝန်းကျင်ထိန်းသိမ်း ရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၁၄။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၀)၊ ပုဒ်မ ၁၉(ဂ)ပါ သတ်မှတ်ချက်နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန ၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၅။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှုလုပ်ငန်း၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင် ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များ နှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၆။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေးအစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဆိုင်ရာနည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၈။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကိုရယူရမည်။

၁၉။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

၂၀။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကမျှပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့်ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ

ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၁။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၄ /မ-၁၅၃၄/၂၀၁၆(                )

ရက်စွဲ ၊ ၂၀၁၆ ခုနှစ် မတ် လ          ရက်

**ဖြန့်ဝေခြင်း-**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

ပုံစံ (မနသ-၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၁၃၉ /၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ မတ် လ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏ အမည်** ဦးသောင်းထိုက်မင်း

(ခ) **အဘ အမည်** ဦးကျော်လွင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၉ / မထလ (နိုင်) ၀၀၁၉၃၀

(ဃ) **နေရပ်လိပ်စာ** အမှတ်(၆၂-အီး)၊ ရွှေဟသ်ာလမ်း၊ (၁၁)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** THU KHA YADANAR COMPANY LIMITED (သုခရတနာကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇) လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့် အိမ်ရာ ဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း မြေတိုင်းရပ်ကွက် အမှတ်(၂၀ အေ, ၄၆-ဘီ)၊ မြေကွက် အမှတ်(၂၉)၊ စိန်ဂျွန်းအုပ် သို့လျှောင်ရုံဝင်းရှိ မြေ(၄.၉၈)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၈၄၀၀၀.၀၀ သန်း( အမေရိကန်ဒေါ်လာ ၄၇.၂၄ သန် အပါအဝင် စုစုပေါင်း ကျပ် ရှစ်သောင်းလေးထောင်သန်း တိတိ )

(ဈ) **တည်ဆောက်မှုကာလ** ၆ နှစ်

(ည) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ၅၀ နှစ်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ /၂၀၁၆ (မနသ)

၂၀၁၆ ခုနှစ် မတ် လ ရက်

၁။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်)သည် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၂၀ အေ, ၄၆-ဘီ)၊ မြေကွက် အမှတ်(၂၉)၊ စိန်ဂွမ်းအုပ်စုသိုလှောင်ရုံဝင်းအတွင်းရှိ မြေ(၄.၉၈)ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇) လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ရင်းနှီးမြှုပ်နှံသူ ဦးသောင်းထိုက်မင်းမှ ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊ မတ် လ ၄ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏ (၈/၂၀၁၆)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုမိန့် ထုတ်ပေးရန် ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်)အား B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇) လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၁၁၃၉/၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်-

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ၂၀(ဂ)အရ လုပ်ငန်းမှရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန် တကယ်အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၄။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေ ငှားရမ်းခြင်း သက်တမ်းကာလမှာ ကနဦးနှစ် (၅၀)နှင့် သက်တမ်းတိုး မြှင့်မည့်ကာလမှာ (၁၀)နှစ် သက်တမ်း(၂)ကြိမ်ဖြစ်သည်။ ထိုသို့ စာချုပ်သက်တမ်းကာလ တိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက် ရရှိပြီးမှသာ အတည်ဖြစ်သည်။

၇။ Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) သည် Land Use Premium ကြေးအဖြစ် တစ်ဧကလျှင် အမေရိကန်ဒေါ်လာ ၂.၀၀ သန်းနှုန်းဖြင့် မြေ ၄.၉၈ ဧကအတွက် စုစုပေါင်း အမေရိကန်ဒေါ်လာ ၉.၉၆ သန်း အား အောက်ပါအတိုင်း ၄ ကြိမ်ခွဲ၍ ပေးသွင်းရမည် -

(၁) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား စာချုပ်လက်မှတ်ရေးထိုးပြီး ၁၈ လ အတွင်း
(၂) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား ပထမအရစ် ပေးချေသည့်နေ့မှ ၈ လ အတွင်း
(၃) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား ပထမအရစ် ပေးချေသည့်နေ့မှ ၁၆ လ အတွင်း
(၄) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား ပထမအရစ် ပေးချေသည့်နေ့မှ ၂၄ လ အတွင်း

၈။ နှစ်စဉ် မြေငှားရမ်းခအား ၁ နှစ်လျှင် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၁၅ နှုန်းဖြင့် စုစုပေါင်းကြမ်းခင်းဧရိယာ၏ ၆၅ % ကို ငှားရမ်းနိုင်သော ဧရိယာအဖြစ် သတ်မှတ်၍ ပေးချေရမည်။

၉။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနနှင့် Thu Kha Yadanar Co., Ltd. (သုခရတနာ ကုမ္ပဏီလီမိတက်) တို့ B.O.T စနစ်ဖြင့် မြေ ငှားရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ (၅)စောင်စီကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

**အဆိုပြုချက်စိစစ်ရေးအဖွဲ့**

☎-၀၁-၆၅၈၁၂၉
ဖက်(စ်) ၀၁-၆၅၈၁၃၇

စာအမှတ်၊ ရက- ၄ / မ-၁၅၃၄ / ၂၀၁၆ ( ၂၈၉
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီ လ ၂၄ ရက်

အကြောင်းအရာ။ **အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၇/၂၀၁၆)အစည်းအဝေး ဆုံးဖြတ်ချ နှင့်အညီ ပြင်ဆင်တင်ပြရန် အကြောင်းကြားခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ Thu Kha Yadanar Co., Ltd. ၏ (၁၀-၂-၂၀၁၆) ရက်စွဲပါ တင်ပြစာ

၁။ Thu Kha Yadanar Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊အမှတ်(၂၉)၊ စိန်ဂျွန်းအုပ်စုသိုလှောင်ရုံရှိ မြေ(၄.၉၈)ဧ တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence ( လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ မြေ(၄.၉၈)ဧက ငှားရမ်းခြင်း ဝန်ဆောင် လုပ်ငန်းအား လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွ ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးသောင်းထိုက်မင်းမှ ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် ရည်ညွှ ပါစာဖြင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၆ ရက်နေ့တွင် ကျင်းပသေ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၇/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ပြည်ပ တင်သွင်းမည့် ပစ္စည်းစာရင်းအား ပြန်လည် စိစစ်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ အထက်စာပိုဒ်(၁)ပါ ဆုံးဖြတ်ချက်အား ပြင်ဆင်ပြီးပါက ပြန်လည် တင်ပြပေး ရန်နှင့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအသစ်အဖြစ် ဆောင်ရွက်ရန် လက်ခံနိုင်သည့် လုပ်ငန်းဖြစ်ကြော အကြောင်းကြားပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စာ
(ဆန်းမြင့်၊ ဒုတိယညွှန်ကြားရေးမှူးချု

Thu Kha Yadanar Co., Ltd.
မိတ္တူကို

ဆောက်လုပ်ရေးဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန

ရုံးလက်ခံ/မျှောစာတွဲ

အထွေထွေအရပ်ရပ်-၁၆

ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၃ ရက်

အကြောင်းအရာ။ Thu Kha Yadanar Co., Ltd. မှ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံရှိ မြေ (၄.၉၈)ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄) ထပ် နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံးနှင့် Club House Building (၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုချက် တင်ပြလာခြင်း

၁။ အထက်ပါ ကိစ္စနှင့်စပ်လျဉ်း၍ PAT၏(၇/၂၀၁၆)အစည်းအဝေး ဆုံးဖြတ်ချက်အား အကြောင်းကြားမည့် စာချော အား တင်ပြအပ်ပါသည်။

23/2/16.

(ဝင်းမို့မို့အေး)

ဦးစီးအရာရှိ

လ/ထ-ညွှန်ကြားရေးမှူး

၂။ အထက်ပါ ကိစ္စနှင့်စပ်လျဉ်း၍ ၇/၂၀၁၆ အစည်းအဝေးဆုံးဖြတ်ချက်အား [illegible] အကြောင်းကြားမည့်စာချော အား တင်ပြအပ်ပါသည်။

23/2

( [illegible] )

ဒု/ ညွှန်ကြားရေးမှူး

၃။ PAT (7/2016) အစည်းအဝေး ဆုံးဖြတ်ချက်အား သက်ဆိုင်ရာ ကုမ္ပဏီသို့ အကြောင်းကြားမည့်စာ အား တင်ပြအပ်ပါသည်။

23. 2. 16.

( [illegible] )

ညွှန်ကြားရေးမှူး

၄။ တင်ပြ

ဒု-ညွှန်ကြားရေးမှူးချုပ်

၅။ [illegible]

[illegible]

# ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## အဆိုပြုချက် စိစစ်ရေးအဖွဲ့

၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၆ ရက်နေ့ နံနက် ၉း၀၀ နာရီတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံ ကော်မရှင်ရုံး အမှတ်(၁)သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့ရှိ အစည်းအဝေးခန်းမ၌ ကျင်းပသည မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၇/၂၀၁၆) ကြိမ်မြောက် အစည်းအဝေး မှတ်တမ်း

**အစည်းအဝေးတက်ရောက်သည့် အဖွဲ့ဝင်များ/ ကိုယ်စားတက်ရောက်သူများ**

ဦးခင်မောင်သွင် — အဖွဲ့ဝင်
ဒုတိယအထွေထွေမန်နေဂျာ(အင်ဂျင်နီယာ)
ရန်ကုန်လျှပ်စစ်ဓာတ်အားပေးရေးကော်ပိုရေးရှင်း
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ဦးကြည်ဦး — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
အကောက်ခွန်ဦးစီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန

ဦးထွန်းသန်း — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
ပြည်တွင်းအခွန်များဦးစီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန

ဦးတင်ဦး — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
စက်မှုဝန်ကြီးဌာန

ဦးသန်းအေး — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ဒေါ်မြင့်မြင့်ထွန်း — ကိုယ်စား
ဒုတိယညွှန်ကြားရေးမှူး
ကုန်သွယ်ရေးဦးစီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဦးမြင့်ခိုင် | ကိုယ်စား
လက်ထောက်ညွှန်ကြားရေးမှူး
မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန

**အထူးဖိတ်ကြားခြင်းဖြင့် တက်ရောက်သူများ**

ဒေါ်မြသူဇာ
တွဲဖက်အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဦးဆန်းမြင့်
ဒုတိယညွှန်ကြားရေးမှူးချုပ်(၁)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

ဦးသန်းအောင်ကျော်
ဒုတိယညွှန်ကြားရေးမှူးချုပ်(၂)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

ဦးသူရစိုး
ညွှန်ကြားရေးမှူး
စိုက်ပျိုးရေးဦးစီးဌာန
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန

ဦးမြင့်ချို
ညွှန်ကြားရေးမှူး
ကုန်သွယ်မှုမြှင့်တင်ရေးနှင့်စားသုံးသူရေးရာဦးစီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဦးကိုကိုမောင်
ညွှန်ကြားရေးမှူး
စက်မှုလယ်ယာဦးစီးဌာန
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန

ဦးဖြိုးမြင့်ဆွေ
ညွှန်ကြားရေးမှူး
မြန်မာ့ဆေးဝါးလုပ်ငန်း
စက်မှုဝန်ကြီးဌာန

ဦးအောင်မြင့်
ညွှန်ကြားရေးမှူး
မြန်မာ့ရေနံနှင့်ဓာတုဗေဒလုပ်ငန်း
စွမ်းအင်ဝန်ကြီးဌာန

ဦးနေဝင်းအောင်
ညွှန်ကြားရေးမှူး
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့

ဦးတင်ထွန်း
ဒုတိယညွှန်ကြားရေးမှူး
သစ်တောဦးစီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ဦးနေလွင်ထွန်း
ဒုတိယညွှန်ကြားရေးမှူး
စက်မှုလုပ်ငန်းများဖွံ့ဖြိုးတိုးတက်ရေးကော်မတီ

ဦးမင်းမော်သန်း
ဒုတိယညွှန်ကြားရေးမှူး
မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန

ဦးအေးချိုသောင်း
ဒုတိယအထွေထွေမန်နေဂျာ
မြန်မာ့သစ်လုပ်ငန်း
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ဦးတင့်လွင်
ဌာနခွဲအင်ဂျင်နီယာ
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
ပို့ဆောင်ရေးဝန်ကြီးဌာန

ဦးစိုးလွင်
ဒုတိယဌာနမှူး
ညှိနှိုင်းဆောင်ရွက်ရေးဌာန
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

ဒေါ်စုစု
လက်ထောက်ညွှန်ကြားရေးမှူး
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

**အစည်းအဝေးမတက်ရောက်နိုင်သည့်အဖွဲ့ဝင်များ (တာဝန်)**

ဦးအောင်နိုင်ဦး — အဖွဲ့ခေါင်းဆောင်
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

ဦးမြင့်နိုင် — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
ပြည်တွင်းပြည်ပဆက်ဆံရေးနှင့်သတင်းပြန်ကြားရေးဌာနခွဲ
ပြည်ထောင်စုဝန်ကြီးရုံး
ဆောက်လုပ်ရေးဝန်ကြီးဌာန

ဦးစိုးဝင်း — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
အလုပ်သမားညွှန်ကြားမှုဦးစီးဌာန
အလုပ်သမား၊ အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန

ဦးစိုးလွင် — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
ကုန်သွယ်ရေးဦးစီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

## ရည်ရွယ်ချက်

၁။ ရင်းနှီးမြှုပ်နှံမှု အခွင့်အလမ်းများ တိုးတက်စေရန်အတွက် ရင်းနှီးမြှုပ်နှံသူများမှ သိရှိလိုသည့် အချက်များအား ရှင်းလင်းဆွေးနွေး လမ်းညွှန်ပေးရန်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးသို့မတင်ပြမီ လိုအပ်ချက်များ ပြည့်စုံစေရန်အတွက် ညှိနှိုင်းဆွေးနွေးရန်။

**၂။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၅/၂၀၁၆) နှင့် (၆/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးမှတ်တမ်းတို့အား အတည်ပြုပေးပါရန် တင်ပြခြင်း**

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန ညွှန်ကြားရေးမှူး ဒေါ်စန်းစန်းမြင့်က မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၅/၂၀၁၆) နှင့် (၆/၂၀၁၆)ကြိမ်မြောက်

(က) လုပ်ငန်းဆောင်ရွက်မည့်ကုမ္ပဏီအမည်မှန်အား မြေငှားစာချုပ်(မူကြမ်း)တွင် ပြန်လည်ပြင်ဆင်တင်ပြရန်။

(ခ) လာရောက်တည်းခိုသူများအတွက် လုံခြုံမှုရှိစေမည့် (Safety Plan) အား တင်ပြရန်။

(ဂ) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့တင်ပြရန်။

၁၂။ **မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် Thu Kha Yadanar Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၀)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံရှိ မြေ(၄.၉၈)ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ပါ Residence (၇)လုံးနှင့် Club House Building (၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ညွှန်ကြားရေးမှူး ဒေါ်စန်းစန်းမြင့်က အမှာစကို ဖတ်ကြားပြီး ကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ အထွေထွေမန်နေဂျာ ဦးဇာနည်မျိုးခိုင်က ယခုလုပ်ငန်းဆောင်ရွက်မည့်နေရာမှာ Dagon City Project အတွက် အစားထိုးရရှိသည့် မြေနေရာဖြစ်ကြောင်း၊ အဆိုပါနေရာမှာ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်-၂၉၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံရှိ မြေဧရိယာ(၄.၉၈)ဧကဖြစ်ပြီး ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနပိုင်မြေ ဖြစ်ကြောင်း၊ မိမိတို့ကုမ္ပဏီသည် ယင်းမြေပေါ်တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံး၊ Club House Building (၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း၊ လက်ရှိအနေအထားအရ Shopping Centre နှင့်ဈေးများရှိ၍ ယခုအဆိုပြုလုပ်ငန်းကို ဦးစားပေးလုပ်ခြင်းဖြစ်ကြောင်း၊ ကားပါကင်တွင် ကားအစီးရေ(၈၈၀)စီးရပ်နားနိုင်ရန် စီစဉ်ထားပြီး အခက်အခဲရှိပါက အဆောက်အဦရှေ့တွင် ကားအစီးရေ(၅၀)ရပ်နားနိုင်ရန် စီစဉ်ထားပါကြောင်း၊ အဆောက်အဦမှာ Basement အပါအဝင် အထပ်(၁၄)ထပ်ရှိပြီး အမြင့် ၁၈၈ ပေ ရှိ၍ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ သတ်မှတ်ချက် ပေ ၁၉၀ အောက်တွင်ရှိပါကြောင်း၊ အခန်းအမျိုးအစား(၄)မျိုးရှိပြီး EIA ၊ SIA နှင့်ပတ်သက်၍ သတ်မှတ်ချက်အတိုင်းလိုက်နာမည်ဖြစ်ကြောင်း၊ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၅၄.၁၉ သန်း အပါအဝင် ကျပ် ၈၂၈၆.၀၀ သန်း ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ကနဦး နှစ်(၅၀)နှင့် သက်တမ်းတိုး (၁၀)နှစ်(၂)ကြိမ်ဖြစ်ကြောင်း၊ ဝန်ထမ်းအင်အားအနေဖြင့် ပြည်တွင်းဝန်ထမ်း (၃၇)ဦးခန့် ထားမည်ဖြစ်ကြောင်း၊ သက်ဆိုင်ရာအခွန်များကိုလည်း ပေးဆောင်မည်ဖြစ်ကြောင်း၊ CSR အနေဖြင့် လျှပ်စစ်မီးမရရှိသည့်နေရာများ၊ အားကစား၊ ပညာရေးစသည်တို့တွင် ကျပ်သိန်း ၈၀၀၀ ခန့်လှူဒါန်းထားပြီးဖြစ်ကြောင်း၊ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်နေရာမှာ ရထားလမ်းဘေးတွင်ရှိ၍ ရထားပို့ဆောင်ရေးဝန်ကြီးဌာနမှ ချမှတ်ထားသည့်အတိုင်း တစ်ဖက်စီ ပေ ၅၀ အကွာ မဟုတ်ဘဲ ပေ ၇၀ ကွာဝေးပါကြောင်း ရှင်းလင်းတင်ပြသည်။

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ ဒုတိယဌာနမှူး ဦးစိုးလွင်က ယခုကုမ္ပဏီသည် မိမိတို့ဌာနမှ Conceptual Design စိစစ်ထားပြီးဖြစ်ရာ ဆောက်လုပ်မည့်အဆောက်အဦများမှာ ပေ ၁၉၀ ထက်မကျော်ပါကြောင်း၊ အဆောက်အဦဆောက်လုပ်ရန် ကုမ္ပဏီမှ ထောက်ခံချက်နှစ်ခုတင်ပြရမည်ဖြစ်ကြောင်း၊ ကားပါကင်တွင် ကားအစီးရေ(၈၈၀)စီး ရပ်နားနိုင်ရန်စီစဉ်ထားသည်ဟု ပြောသဖြင့် ၂၀% ထပ်ဆောင်းပေးရမည်ဖြစ်ကြောင်း၊ အဆိုပြုချက်တွင် မြေတိုင်းမြေပုံ မပါသေးကြောင်း၊ အဆောက်အဦဆောက်လုပ်ရန် FAR-10 ထိလက်ခံပြီး 12 မကျော်ရန်နှင့် BCR-0.6 or 0.7 ရမည်ဆိုပါက လက်ရှိတင်ပြထားသည်ကို မူအားဖြင့် ခွင့်ပြု၍ရပြီး လုပ်ငန်းဆောင်ရွက်မည့်နေရာ ပတ်ဝန်းကျင်ထောက်ခံစာ တင်ပြပေးရမည်ဖြစ်ကြောင်း၊ အထပ်အမြင့် အဆောက်အဦဆောက်လုပ်ရာတွင် အထပ်တစ်ထပ်လျှင် အနည်းဆုံးအမြင့်ပေ ၁၀ ပေ ထားရမည်ဖြစ်ပြီး အဆောက်အဦအမြင့်သည် ပေ ၁၉၀ ထက် မကျော်ရပါကြောင်း၊ ရေဆိုးနှင့်ပတ်သက်ပြီး အဖွဲ့ဖွဲ့၍ ကွင်းဆင်းစစ်ဆေးမည်ဖြစ်ပြီး Treatment လုပ်ပြီး မည်ကဲ့သို့ စွန့်ပစ်မည်ဆိုသည်ကို တင်ပြရမည်ဖြစ်ကြောင်း၊ မြေပုံရရှိမှသာလုပ်ကိုင်မည်ဖြစ်ပြီး မြေပုံတွင် အဆောက်အဦ ဆောက်လုပ်ရန်ဟု ပါရှိရမည်ဖြစ်ကာ ဌာနအနေဖြင့် အဆင့်လိုက်စိစစ်ပြီး ခွင့်ပြုပေးနေပါကြောင်း ဆွေးနွေးပြောကြားပါသည်။

မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဦးမြင့်ခိုင်က ယခုလုပ်ငန်းဆောင်ရွက်မည့်ကုမ္ပဏီမှာ စစ်ထောက်ချုပ်ရုံးနှင့် မြေငှားစာချုပ်ချုပ်ဆိုထားသည့် ပြည်တွင်းကုမ္ပဏီတစ်ခုဖြစ်ကြောင်း၊ ပြည်ထဲရေးဝန်ကြီးဌာနမှ ဆောက်လုပ်ရေးဝန်ကြီးဌာနကို မြေပိုင်ရှင်အဖြစ် ပြန်လည်လွှဲပြောင်းထား၍ စာချုပ်ချုပ်ဆိုရခြင်းဖြစ်ကြောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ခွင့်ပြုသည့် မြေနေရာဖြစ်၍ ပြည့်စုံအောင်ပြင်ဆင်ပြီး ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် တင်ပြခြင်းဖြစ်ပါကြောင်း ဆွေးနွေးပြောကြားပါသည်။

မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးမင်းမော်သန်းက ကုမ္ပဏီမှ လုပ်ကိုင်မည့် အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ ပဏာမသဘောတူညီမှုရရှိပြီးဖြစ်၍ အသေးစိတ်ထပ်မံဆွေးနွေးမည်ဖြစ်ပြီး အထပ်အရေအတွက်မှာ(၁၄)ထပ် သို့မဟုတ် လျှော့လျှင်လျှော့နိုင်ကြောင်း၊ ကုမ္ပဏီမှ လုပ်ငန်းဆောင်ရွက်ခြင်းကို ဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ဆွေးနွေးပြောကြားပါသည်။

ရန်ကုန်လျှပ်စစ်ဓာတ်အားပေးရေးကော်ပိုရေးရှင်း ဒုတိယအထွေထွေမန်နေဂျာ (အင်ဂျင်နီယာ) ဦးခင်မောင်သွင်က အထပ် (၁၄)ထပ်တွင် အခန်း (၇၃၃)ခန်းပါဝင်ပြီး Residence (၇)လုံးနှင့် Club House Building (၁)လုံး တင်ပြထားကြောင်း၊ ပုံစံ-၁၏၉(ည) နှစ်စဉ်လျှပ်စစ်ဓာတ်အား လိုအပ်ချက်တွင် 1000 KVA တင်ပြထားကြောင်း၊ ရန်ကုန်မြို့၏ လူနေမှုစနစ်အရ အခန်းတစ်ခန်းကို လျှပ်စစ်ဓာတ်အား သုံးစွဲမှု ၁၀ kW ခန့်တွက်ရသဖြင့် တင်ပြထားသည့် အဆောက်အဦပါ အခန်းများအတွက် ၈၀၀၀ kW ခန့်သုံးမည်ဖြစ်ကြောင်း၊ ယခုတင်ပြထားသည်မှာ နည်းလွန်းနေ၍ ပြန်လည်စိစစ်ပေးရန်လိုကြောင်း၊ နောက်ဆက်တွဲ-၁၀ လျှပ်စစ်ဓာတ်အားလိုအပ်ချက်၌ လအလိုက်ဖော်ပြထားရာတွင် Operation Year-1၊ 2 ၊ 3 to 44 ၌ ၃၁၀၀၀ ဖော်ပြထားသဖြင့် ပြန်လည်စိစစ်ပေးရန်လိုကြောင်း၊ ကုမ္ပဏီအနေဖြင့် လျှပ်စစ်ဓာတ်အားရယူရန်နှင့်ပတ်သက်၍ ကြိုတင်စီစဉ်ထားခြင်း မရှိသေးပါက လျှပ်စစ်ဌာနနှင့် အမြန်ဆုံးဆက်သွယ်ဆောင်ရွက်ပါရန် ဆွေးနွေးပြောကြားပါသည်။

စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန ညွှန်ကြားရေးမှူး ဦးတင်ဦးက ဆောက်လုပ်မည့် အဆောက်အဦများတွင် မီးစက်၊ ထရန်စဖော်မာ၊ ဓာတ်လှေကားတပ်ဆင်ပြီးပါက Electrical Inspection ဌာန၏စစ်ဆေးမှုခံယူရန်လိုကြောင်း၊ အဆောက်အဦတစ်လုံးတွင် ဓာတ်လှေကားမည်မျှ တပ်ဆင်မည်ကို သိလိုပြီး တစ်စီးလျှင် kg မည်မျှရှိသည်ကိုသိလိုကြောင်း၊ အဆိုပါအဆောက်အဦများတွင် Fire Alarm System တပ်ဆင်ရန်လိုပါကြောင်း ဆွေးနွေးပြောကြားပါသည်။

အကောက်ခွန်ဦးစီးဌာန ညွှန်ကြားရေးမှူး ဦးကြည်ဦးက ပြည်ပမှတင်သွင်းမည့် စက်ပစ္စည်းများ ထဲတွင် ပြည်တွင်း၌ ဝယ်ယူရရှိနိုင်သော ပစ္စည်းများပါဝင်နေသဖြင့် အဆိုပါပစ္စည်းများကို ပြည်တွင်း၌သာ ဝယ်ယူပါရန် အကြံပြုလိုပါကြောင်း၊ နောက်ဆက်တွဲ-၅(ဂ) Living Supplies List အမှတ်စဉ်(၆)တွင် Medicine 5 Ton တင်ပြထားသဖြင့် မည်သည့်ဆေးအမျိုးအစားများဖြစ်သည်ကို သိလိုကြောင်း၊ အဆိုပါ ဆေးများ တင်သွင်းမည်ဆိုပါက အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာန၏ ထောက်ခံချက်ပါ ရှိမှသာ တင်သွင်း၍ရမည်ဖြစ်ကြောင်း၊ နောက်ဆက်တွဲ-၇ ပြည်ပမှတင်သွင်းမည့် မော်တော်ယာဉ်စာရင်း တွင် ဖော်ပြထားသော Toyota Lite Ace၊ Toyota Alphard နှင့် Toyota Land Cruiser တင်သွင်း ပါက အခွန်ကင်းလွတ်ခွင့်မရပါကြောင်း၊ ကုမ္ပဏီအနေဖြင့် ပြည်ပမှ မော်တော်ယာဉ်များတင်သွင်းရာ၌ မော်တော်ယာဉ်တင်သွင်းမှုမူဝါဒနှင့်ကိုက်ညီသည့် Model ကိုသာ တင်သွင်းရန်လိုကြောင်း ဆွေးနွေး ပြောကြားပါသည်။

ပြည်တွင်းအခွန်များဦးစီးဌာန ညွှန်ကြားရေးမှူး ဦးထွန်းသန်းက ကုမ္ပဏီသည် Residence ဆောက်လုပ်၍ ငှားရမ်းမည်ဖြစ်သောကြောင့် ငှားရမ်းသူထံမှ ကုန်သွယ်လုပ်ငန်းခွန် ကောက်ခံပေးရမည် ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုန်သွယ်ရေးဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဒေါ်မြင့်မြင့်ထွန်းက ကုမ္ပဏီသည် ပြည်ပမှ လူစီးမော်တော်ယာဉ်များကို အခွန်ပေးဆောင်၍ တင်သွင်းရမည်ဖြစ်ပြီး ဌာနမှသတ်မှတ်ထားသည့် Model ကိုသာ တင်သွင်းရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန ညွှန်ကြားရေးမှူး ဦးသန်းအေးက ကုမ္ပဏီမှ လုပ်ကိုင်မည့် လုပ်ငန်းထဲတွင် ဟိုတယ်လုပ်ငန်းပါ-မပါ သိလိုကြောင်း၊ ဆောက်လုပ်မည့် အဆောက်အဦတွင် အခန်း (၇၇၃)ခန်းပါရှိသဖြင့် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) အစီရင်ခံစာအား Third Party ထံအပ်နှံ၍ ရေးဆွဲရမည်ဖြစ်ကြောင်း၊ နောက်ဆက်တွဲ-၅(က) ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းစာရင်းတွင် Air Conditioner 900 Set တင်ပြထားပြီး အသုံးပြု မည့် ဂက်(စ်)မှာ R-22 ဖြစ်ကြောင်း၊ ၂၀၁၆ ခုနှစ်မှစ၍ Carbon အသုံးပြုမှုကို ၁၅ % လျှော့ချမည်ဖြစ်ပြီး တစ်နှစ်ထက်တစ်နှစ် ပိုမိုလျှော့ချရန်ရှိပါကြောင်း၊ အစားထိုးဓာတ်ငွေ့ရည် အမျိုးအစားများစွာရှိသဖြင့် အဆိုပါဓာတ်ငွေ့ရည်များ ထည့်သွင်းအသုံးပြုနိုင်သည့် Air Conditioner တပ်ဆင်ပါရန် အကြံပြုလို ကြောင်း ဆွေးနွေးပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန ညွှန်ကြားရေးမှူး ဒေါ်မြစန္ဒာက ပြည်ပမှ တင်သွင်းမည့် ပစ္စည်းများစာရင်းတွင် ပြည်တွင်း၌ ဝယ်ယူရရှိနိုင်သောပစ္စည်းများ ပါဝင်နေသဖြင့် စာရင်းပြန်လည်ခွဲပေးရန်လိုကြောင်း၊ မြေငှားစာချုပ်(မူကြမ်း)တွင် မြေပိုင်ရှင်အမည်နှင့်စာလုံးပေါင်းများ မှားနေသည်ကို ပြင်ဆင်ပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာက ဆောက်လုပ်မည့် အဆောက်အဦတွင် အခန်း(၇၇၃) ခန်းပါဝင်သည်ဟု ပြောကြားသော်လည်း ဆောက်လုပ်ရေးလုပ်ငန်း သုံးပစ္စည်းစာရင်းတွင် Air Conditioner နှင့် Exhaust Fan တို့အား တစ်မျိုးလျှင် အလုံး (၉၀၀)စီ တင်ပြထားကြောင်း၊ အဆိုပါစာရင်းတွင် Mechanical Carpark 700 Set ဖော်ပြထားသဖြင့် Set တစ်ခုတွင် အစီးမည်မျှဆံ့သည်ကို သိလိုကြောင်း၊ ရေဆိုးစွန့်ပစ်မှုနှင့်ပတ်သက်ပြီး ရန်ကုန်မြို့တော်စည်ပင် သာယာရေးကော်မတီမှ မည်ကဲ့သို့စီစဥ်ထားသည်ကို သိလိုကြောင်း၊ အဆောက်အဦတွင် ဝင်ပေါက် ထွက်မည်မျှပါရှိသည်ကို သိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုမ္ပဏီ၏ အထွေထွေမန်နေဂျာ ဦးဇာနည်မျိုးခိုင်က လုပ်ငန်းဆောင်ရွက်မည့်နေရာတွင် လျှပ်စစ် ဓာတ်အားအသုံးပြုမှုအတွက် လျှပ်စစ်ဌာနသို့ ကြိုတင်လျှောက်ထား ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ဓာတ် လှေကားမှာ အဆောက်အဦတစ်လုံးလျှင် (၃)စင်းနှုန်းဖြင့် (၂၄)စင်းဖြစ်ပြီး (၃)စင်းအပိုပါရှိကာ တစ်စီး လျှင် 1000 kg ရှိကြောင်း၊ ပြည်ပမှတင်သွင်းမည့် Medicine 5 Ton မှာ အလုပ်သမားများနှင့် ပညာရှင်များအတွက် လိုအပ်သည့်ဆေးဝါးများဖြစ်ပြီး အဆိုပါဆေးများကို ပြည်တွင်း၌ဝယ်ယူ၍ရပါက ပြည်တွင်း၌ဝယ်ယူမည်ဖြစ်ကြောင်း၊ Residence ကို ငှားရမ်းမည့်သူထံမှ ကုန်သွယ်လုပ်ငန်းခွန်ကောက်ခံ မည်ဖြစ်ကြောင်း၊ ယခုလုပ်ကိုင်သည့် လုပ်ငန်းထဲတွင် ဟိုတယ်လုပ်ငန်း မပါဝင်သေးဘဲ နောက်ပိုင်း လိုအပ်ချက်အရ လုပ်လိုလျှင် လုပ်ကိုင်မည်ဖြစ်ကြောင်း၊ Air Conditioner Exhanust Fan (၉၀၀) လုံး တင်သွင်းရခြင်းမှာ Residence အောက်တွင် ဧည့်သည်များအတွက် ဝန်ဆောင်မှုပေးမည့်နေရာရှိမည် ဖြစ်၍ အဆိုပါနေရာတွင် ထားရှိရန်အတွက် ပါဝင်ကြောင်း၊ Basement (၂)ထပ်တွင် ကားအစီးရေ (၂၀၀)စီးဆံ့ပြီး ဒုတိယထပ်တွင် အစီး(၆၀၀)ကျော်ရပ်နိုင်ကြောင်း၊ ဝင်ပေါက်၊ထွက်ပေါက်အနေဖြင့် ပေ ၂၀ အကျယ်လမ်းတွင် (၃)ပေါက်လုပ်ထားပါကြောင်း၊ လိုအပ်ချက်များနှင့် ပြင်ဆင်တင်ပြပေးရန်ရှိသည် များကို ပြန်လည်ပြင်ဆင်တင်ပြပေးမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် Thu Kha Yadanar Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ် (၂၀)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံရှိ မြေ(၄.၉၈)ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ် နှင့် အခန်း(၇၇၃)ပါ Residence (၇)လုံးနှင့် Club House Building (၁)လုံး တည်ဆောက်၍ ငှားရမ်း ခြင်း ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြု ချက်တင်ပြလာခြင်းကိစ္စအား အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်-

(က) ပြည်ပမှ တင်သွင်းမည့် ပစ္စည်းစာရင်းအား ပြန်လည်စိစစ်တင်ပြရန်။

(ခ) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်း အဝေးသို့ တင်ပြရန်။

**၁၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် Mya Kan Engineering Co., Ltd. ၏ လမ်းခင်း ကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံး ခွဲကျောက်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ညွှန်ကြားရေးမှူး ဒေါ်စန်းစန်းမြင့်က အမှာစာ

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရ |
|---|---|
| (ဓ) မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် Taung Pyar Dan Co., Ltd. မှ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အထက်ပုဇွန်တောင်လမ်း၊ စက်ဆန်းဗဟိုသိုလှောင်ရေးစခန်းရှိ မြေ(၃.၉၉)ဧကပေါ်တွင် B.O.T စနစ်ဖြင့် (၈)ထပ်အမြင့်ရှိသော အဆင့်မြင့်လူနေအိမ်ခန်း၊ ရုံးခန်းနှင့် စီးပွားရေးအဆောက်အဦဆောက်လုပ်၍ ငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိုစိစစ်ပြီး-<br>(၁) ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့် အဆိုပါဌာန၏အကြံပြုချက်နှင့်အညီ ပြင်ဆင်ချုပ်ဆိုထားသည့် စာချုပ်(မူကြမ်း)၊ ပြည်ထောင်စုအစိုးရအဖွဲ့၏ ခွင့်ပြုချက်ရယူ တင်ပြရန်။<br>(၂) လုပ်ငန်းအမျိုးအစား ပြင်ဆင်ပေးရန်နှင့် ဆောက်လုပ်မည့်အဆောက်အဦဒီဇိုင်း၊ Layout Plan၊ ဆောက်လုပ်မည့်အဆောက်အဦ၏ အကျယ်အဝန်းတို့ တင်ပြပေးရန်။<br>(၃) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့တင်ပြရန်။ | အဆိုပြုချက်<br>စိစစ်ရေးအဖွဲ့<br>Taung Pyar D<br>Co., Ltd. |
| (စျ) မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် Thiri Multi Agricultural Co., Ltd. မှ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူခရိုင်၊ အုတ်တွင်းမြို့နယ်၊ ခပေါင်းသစ်တောကြိုးဝိုင်းအတွင်းရှိ မြေ(၁၀.၈၀)ဧကပေါ်တွင် သဘာဝအခြေခံခရီးသွားအပန်းဖြေဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိုစိစစ်ပြီး-<br>(၁) လုပ်ငန်းဆောင်ရွက်မည့်ကုမ္ပဏီအမည်မှန်အား မြေငှားစာချုပ်(မူကြမ်း) တွင် ပြန်လည် ပြင်ဆင်တင်ပြရန်။<br>(၂) လာရောက်တည်းခိုသူများအတွက် လုံခြုံမှုရှိစေမည့် (Safety Plan) အား တင်ပြရန်။<br>(၃) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့တင်ပြရန်။ | အဆိုပြုချက်<br>စိစစ်ရေးအဖွဲ့<br>Thiri Multi<br>Agricultural<br>Co., Ltd. |
| (ည) မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် Thu Kha Yadanar Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၀)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံရှိ မြေ(၄.၉၈)ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ပါ Residence (၇)လုံးနှင့် Club House | အဆိုပြုချက်<br>စိစစ်ရေးအဖွဲ့<br>Thu Kha<br>Yadanar |

## ဆုံးဖြတ်ချက်

| | ဆောင်ရွက် |
|---|---|
| (ခ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် CO2 Solutions Co., Ltd. မှ သစ်ပါးလွှာ နှင့်အထပ်သား အရွယ်စုံ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်။ | အဆိုပြုချ<br>စိစစ်ရေးအဖ<br>CO2 Solutio<br>Co., Ltd. |
| (ဂ) ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် New Bamaw Timber Products Co., Ltd. မှ အထပ်သား၊ မျက်နှာပြင်သစ်ပါးလွှာ၊ မျက်နှာပြင်ကပ်သစ်ပါးလွှာ၊ သစ်ခွဲသားနှင့် ပရိဘောဂများ ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ကွင်းဆင်းစစ်ဆေးဆောင်ရွက်ခဲ့သည့် အစီရင်ခံစာတင်ပြမှုအပေါ် မူလကုမ္ပဏီအား စာရင်းရှင်းလင်းဖျက်သိမ်းပြီး ကုမ္ပဏီမှ လုပ်ငန်းအမျိုးအစား၊ စီးပွားရေးဆိုင်ရာတွက်ချက်မှုများ ပြင်ဆင်တင်လာပါသဖြင့် အဆိုပြုလုပ်ငန်းအားလက်ခံရန်။ | အဆိုပြုချက်<br>စိစစ်ရေးအဖွဲ့<br>New Bamav<br>Timber Produ<br>Co., Ltd. |

၁၈။ အစည်းအဝေးကို ည(၈း၂၀) နာရီတွင် ရုပ်သိမ်းပါသည်။

မှတ်တမ်းတင်သူ

(မြစန္ဒာ)
ညွှန်ကြားရေးမှူး

စာအမှတ်၊ ရက-၆/ ၁/ ၂၀၁၆ ( ၀၁၄၅ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၂ ရက်

**ဖြန့်ဝေခြင်း**

အစည်းအဝေးတက်ရောက်သူများအားလုံး

# မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု နှင့် နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှု ဖြင့် အစိုးရအဖွဲ့အစည်းပိုင်မြေ တွင် ငှားရမ်းဆောင်ရွက်မည့် မြေဆိုင်ရာအချက်အလက်များ

| PAT အကြိမ်/ရက်စွဲ | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား/ တည်နေရာ | စုစုပေါင်းမြေ အကျယ်အဝန်း | အဆောက်အဦ အကျယ်အဝန်း | နှစ်စဉ် ငှားရမ်းခ/နှုန်း (Sqm) (US$ / ကျပ်) | ငှားရမ်း မည့်နှစ် | မြေငှားရန်ခွင့်ပြုမှု | | | သဘောထား များ |
|---|---|---|---|---|---|---|---|---|---|---|
| | | | | | | | အမည် | ခွင့်ပြု ရက်စွဲ | ခွင့်ပြု ကာလ (နှစ်) | |
| ၇/၂၀၁၆ (၁၆-၂-၂၀၁၆) | Thu Kha Yadanar Co., Ltd. | - B.O.T စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း<br>- ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊အမှတ်(၂၉)၊ စိန်ဂျွန်းအုပ်စုသိုလှောင်ရုံ | ၄.၉၈ ဧက | မပါရှိပါ။ | - တစ် စတုရန်းမီတာ လျှင် 15 US$ နှုန်းဖြင့် US$ ၉၄ ၂၅၃၂.၅ (စုစုပေါင်း ကြမ်းခင်း ဧရိယာ၏ ၆၅ % ဖြင့် တွက်ချက်ခြင်းဖြစ်ပါ သည်။) | ၅၀ နှစ် | မြို့ပြနှင့် အိမ်ရာဖွံ့ ဖြိုးရေး ဦးစီး ဌာန | | | ပတ်ဝန်းကျင ထိန်းသိမ်း ရေးနှင့် သစ် တောရေးရာ ဝန်ကြီးဌာန၊ မြန်မာနိုင်ငံ အင်ဂျင်နီယာ အသင်း၊ ရန်ကုန်တိုင်း ဒေသကြီး အစိုးရအဖွဲ့ |

23.2.16

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၁ ရက်

အကြောင်းအရာ။ **Thu Kha Yadanar Co., Ltd. မှ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံရှိ မြေ(၄.၉၈)ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ် နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံးနှင့် Club House Building (၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုချက် တင်ပြလာခြင်း**

၁။ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ် ရုံးပိုင်မြေတွင် ဆောင်ရွက်လျက်ရှိသော သိဂ္ဂုတ္တရ ကုန်းတော်နှင့် ဆက်စပ် နယ်မြေတစ်ဝိုက်ရှိ လုပ်ငန်းစီမံကိန်းများအတွက် အစားထိုး မြေနေရာ ရရှိထားပြီးဖြစ်သော Thu Kha Yadanar Co., Ltd. မှ ဆောက်လုပ်ရေး ဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂွန်းအုပ်စု သိုလှောင်ရုံရှိ မြေ(၄.၉၈)ဧက တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား လုပ်ကိုင်နိုင်ရန် အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးသောင်းထိုက်မင်းမှ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြု ကုမ္ပဏီ၏ ကုမ္ပဏီဖွဲ့စည်းမှုပိုင်းဆိုင်ရာများအား စစ်ဆေးပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

(မြစန္ဒာ)
**ညွှန်ကြားရေးမှူး**

**ညွှန်ကြားရေးမှူး(ကုမ္ပဏီဌာနခွဲ)**

၃။ [illegible]

ညွှန်ကြားရေးမှူး [illegible]

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်)၊ ၀၁-၆၅၈၀၁၃၇
☎ - ၀၁-၆၅၈၀၂၉

စာအမှတ်၊ ရက- ၄/ မ-၁၅၃၄ / ၂၀၁၆( ၂ ၈ ၈ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီ လ၂၄ရက်

အကြောင်းအရာ။ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ဆောင်ရွက်ရန် အကြောင်းကြားခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၆-၂-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရက- ၄/ မ-၁၅၃၄/၂၀၁၆ (၂၂၆)

(၂) ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ ပူးပေါင်းလုပ်ငန်း အဖွဲ့၊ ရန်ကုန်မြို့၏ (၂၂-၂-၂၀၁၆)ရက်စွဲပါ စာအမှတ်၊ ၀၀၁/MIC/(OSS)/ ECD/၀၁ (၅၃/၁၆)

၁။ Thu Kha Yadanar Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊အမှတ်(၂၉)၊ စိန်ဂျွန်းအုပ်စုသိုလှောင်ရုံရှိ မြေ(၄.၉၈)ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ မြေ(၄.၉၈)ဧက ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးသောင်းထိုက်မင်းမှ အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ ရည်ညွှန်း(၁)ပါစာဖြင့် သဘောထား တောင်းခံခဲ့ပါသည်။

၂။ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ အောက်ဖော်ပြပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း ရည်ညွှန်း(၂)ပါ စာဖြင့် သဘောထားမှတ်ချက် ပြန်ကြားလာပါသည်-

(က) အဆိုပြုလုပ်ငန်းများ ဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာ တွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန် နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှု (CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%)အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး (သို့မဟုတ်)ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental

Impact Assessment-EIA )အား ဆောင်ရွက်ပြီး အစီရင်ခံစာ ပြုစုရေးသား တင်ပြရန်။

(ဂ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှု ပျက်စီးမှု မဖြစ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲ တင်ပြရန်နှင့် စီမံချက်တွင် ပါရှိသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

၃။ သို့ဖြစ်ပါ၍ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ အထက် စာပိုဒ် (၂)ပါ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်ရန် နှင့် ဆောင်ရွက်မည့် အစီအစဉ်များအား ကော်မရှင်သို့ ပြန်လည် တင်ပြရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

Thu Kha Yadanar Co., Ltd.

မိတ္တူကို

ဆောက်လုပ်ရေးဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ရုံးလက်ခံ / မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ဆောက်လုပ်ရေးဝန်ကြီးဌာန

ဝန်ကြီးရုံး

နေပြည်တော်

စာအမှတ်၊ ၂၁ / ဌာနခွဲ - ၂ / MIC / ၂၀၁၆(စီ ၂၆၁)

ရက် စွဲ ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သုခရတနာကုမ္ပဏီလီမိတက်မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင် မြေပေါ်တွင် BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါ ရန်အဆိုပြုတင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃ - ၁၁ - ၂၀၁၅ ရက်စွဲပါ စာအမှတ် ရက-၄/ထွေ/၂၀၁၅(၉၁၇)အရပေးပို့သည့် (၂၀-၁၁-၂၀၁၅)ရက်နေ့ အစည်း အဝေးမှတ်တမ်း

(၂) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၄-၂-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ၂(၅) ၄-၁၆/နပတ(၁၁၇)

(၃) သုခရတနာကုမ္ပဏီလီမိတက် ၏ ၂၁-၁-၂၀၁၆ ရက်စွဲပါ စာအမှတ် 05/TKY/2016

(၄) ပြည်ထဲရေးဝန်ကြီးဌာန၏ ၂ - ၂ - ၂၀၁၆ ရက်စွဲပါ အမိန့်ကြော်ငြာစာ (၂၇၁/၂၀၁၆)

၁။ ရန်ကုန်မြို့ ၊ ရွှေတိဂုံဘုရား ၊ သိင်္ဂုတ္တရကုန်းတော်နှင့် ဆက်စပ်နယ်မြေတဝိုက်ရှိ စီမံကိန်း များအတွက် ကာကွယ်ရေးဝန်ကြီးဌာန ၊ စစ်ထောက်ချုပ်ရုံးနှင့် မြေငှားစာချုပ်ချုပ်ဆိုထားသော ပြည်တွင်းပြည်ပ ကုမ္ပဏီ(၄)ခုအား အစားထိုးမြေနေရာချထားပေးနိုင်ရေးအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သက်ဆိုင်ရာအစိုးရဌာနများ နှင့် ကုမ္ပဏီများအား ခေါ်ယူညှိနှိုင်း ဆွေးနွေးခဲ့ပြီး ဆက်လက်ဆောင်ရွက်ရမည့် ကိစ္စရပ်များအတွက် အစည်းအဝေးဆုံးဖြတ်ချက် မှတ်တမ်းကို ရည်ညွှန်းချက်(၁)ပါစာဖြင့် အကြောင်းကြားပေးပို့ခဲ့ပါသည်။

၂။ အထက်ပါကုမ္ပဏီများအနက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အမှတ်- မနသ - ၉၆၉/၂၀၁၄(၁၃-၃-၂၀၁၄)အရ Hotel , Service Apartment , Commercial Building , Residence & Club House လုပ်ငန်းများဆောင်ရွက်ရန် ခွင့်ပြုထားသော မြန်မာနိုင်ငံသားပိုင် သုခရတနာကုမ္ပဏီလီမိတက်အား အစားထိုးမြေနေရာ အဖြစ် ရန်ကုန်တိုင်း ဒေသကြီး ၊ ရန်ကုန်အနောက်ပိုင်းခရိုင် ၊ လမ်းမတော်မြို့နယ် ၊ မင်းရဲကျော်စွာ လမ်း ၊ မြေတိုင်း ရပ်ကွက်အမှတ် (၂၀-အေ,၄၆-ဘီ) ၊ မြေကွက်အမှတ် (၂-A/၂ ၊ ၂/၂ ၊ ၈-A)ရှိ မြေ (၁၁.၆၆၃)ဧက အနက်မှ (၄.၉၈)ဧကကို ပြန်လည် ငှားရမ်းပေးရန် လျာထားခဲ့ပါသည် ။

၃။ လျာထား မြေနေရာ (ကကခ(၁)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံ၊ ကုန်သွယ်ရေးဝင်း)မှာ ယခင်က
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနမှ စီမံခန့်ခွဲခဲ့သော်လည်း၊ မြန်မာနိုင်ငံရင်း
မြှုပ်နှံမှုကော်မရှင်နှင့် ညှိနှိုင်းချက်အရ ပြည်ထဲရေးဝန်ကြီးဌာနမှ ယင်းမြေနေရာ (၄.၉၈) ဧ
အပါအဝင် စုစုပေါင်း (၁၁.၆၆၃) ဧကကို ရည်ညွှန်းချက် (၄) ပါအမိန့်ကြော်ငြာစာဖြ
ဆောက်လုပ်ရေးဝန်ကြီးဌာနသို့ (၂-၂-၂၀၁၆) နေ့တွင် အခမဲ့လွှဲပြောင်း ပေးပြီးဖြစ်ပါသည်။

၄။ အဆိုပါ မြေကွက်အား ယခင်ကာကွယ်ရေးဝန်ကြီးဌာန နှင့် ချုပ်ဆိုခဲ့သည့် စာချုပ်
အချက်အလက်များနှင့် နှုန်းထားများအတိုင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြ
ချက်ဖြင့် အောက်ပါအတိုင်း ငှားရမ်းရန် ပဏာမသဘောတူထားပါသည် -

(က) မြေငှားသက်တမ်း - (၅၀+၁၀+၁၀)နှစ်

( ခ) မြေအသုံးချမှုပရီမီယံကြေး - US$ ၉.၉၆သန်း(၁ဧကလျှင် US$၂သန်းနှုန်

( ဂ) နှစ်စဉ်မြေငှားရမ်းခ - US$ ၉၄၂,၅၃၂.၅<br>(US$15/sqm/year on lettable area)<br>( lettable area ကို စုစုပေါင်းကြမ်းခ<br>ဧရိယာ၏ ၆၅% ဖြင့် တွက်ချက်ပါသည်)

၅။ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန နှင့် သုခရတနာကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမ
BOT စာချုပ်နှင့် မြေငှားစာချုပ်(မူကြမ်း)များကို ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ ရည်ညွှန်းချက် (
ပါစာဖြင့် စိစစ်ပြန်ကြားပြီးဖြစ်ပါသဖြင့် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြု ချက်နှင့်အည
လိုအပ်သလို ပြင်ဆင်ပြီးဖြစ်ပါသည်။

၆။ သို့ဖြစ်ပါ၍ သုခရတနာကုမ္ပဏီလီမိတက်မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင် ရန်ကုန်တို
ဒေသကြီး ၊ ရန်ကုန်အနောက်ပိုင်းခရိုင် ၊ လမ်းမတော်မြို့နယ် ၊ မင်းရဲကျော်စွာလမ်း ၊ မြေတို
ရပ်ကွက်အမှတ် (၂၀-အေ,၄၆-ဘီ) ၊ မြေကွက်အမှတ် (၂-A/၂ ၊ ၂/၂ ၊ ၈-A)ရှိ မြေ (၁၁.၆၆၃)ဧ
အနက်မှ (၄.၉၈) ဧကအား ငှားရမ်း၍ BOT စနစ် ဖြင့် Hotel , Service Apartment
Commercial Building , Residence & Club House လုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါ
ရည်ညွှန်းချက်(၃)ပါစာဖြင့် လုပ်ငန်း အဆိုပြုလွှာ တင်ပြလာခြင်းအား ခွင့်ပြုပေးနိုင်ပါရန် အဆိုပြ
လွှာ(၁)စုံ ၊ ရည်ညွှန်းချက် ပါစာများ မိတ္တူ(၁)စုံတို့နှင့်အတူ ပူးတွဲပေးပို့ တင်ပြအပ် ပါသည်။

၁၁/၂/၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား
စိုးတင့်၊ဒုတိယဝန်ကြီး

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန။
- ဒုတိယညွှန်ကြားရေးမှူး၊ပြည်သူ့ဆက်ဆံရေးဌာန၊မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန။

Myanmar Investment Commission


ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇

☎ -၀၁-၆၅၈၁၂၉


စာအမှတ်၊ ရက- ၄/မ-ထွေ/၂၀၁၅( ၉ ၁ ၇ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာ လ ၂၃ ရက်

အကြောင်းအရာ။ **အစည်းအဝေးမှတ်တမ်း ပေးပို့ခြင်းကိစ္စ**

၂၀၁၅ ခုနှစ်၊ နိုဝင်ဘာ လ ၂၀ ရက်နေ့ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ အမှတ်(၁)၊သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့တွင် ကျင်းပခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့် ရရှိထားသည့် ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံး ပိုင်မြေ ရွှေတိဂုံ သိဂုံတ္တရကုန်းတော်နှင့် ဆက်စပ် နယ်မြေတစ်ဝိုက်ရှိ လုပ်ငန်းစီမံကိန်းများ၏ အစားထိုး မြေနေရာ များနှင့်စပ်လျဉ်း၍ နိုင်ငံတော်သမ္မတရုံး၏ လမ်းညွှန်ချက် နှင့်အညီ ဆက်လက် ဆောင်ရွက်နိုင်ရေး အတွက် ညှိနှိုင်း အစည်းအဝေး မှတ်တမ်း အား ပေးပို့အပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)

(မြစန္ဒာ၊ ညွှန်ကြားရေးမှူး)

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုဝန်ကြီးရုံး
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ပြည်ထောင်စုဝန်ကြီးရုံး
သိပ္ပံနှင့်နည်းပညာဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ရုံးလက်ခံ/မျှောစာတွဲ

ကန့်သတ်

# ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၂၀၁၅ ခုနှစ်၊ နိုဝင်ဘာ လ ၂၀ ရက်နေ့ မွန်းလွဲ ၁၅:၀၀ နာရီတွင် သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြ
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၌ ကျင်းပသည့် ကာကွယ်ရေးဝန်ကြီးဌာန၊
စစ်ထောက်ချုပ်ရုံးပိုင်မြေတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်ဖြင့် ဆောင်ရွက်လျက်
ရှိသော သိင်္ဂုတ္တရကုန်းတော်နှင့် ဆက်စပ်နယ်မြေတစ်ဝိုက်ရှိ လုပ်ငန်းစီမံကိန်းများအတွက်
အစားထိုးမြေနေရာများနှင့် စပ်လျဉ်းသည့် အစည်းအဝေး မှတ်တမ်း

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အစည်းအဝေး တက်ရောက်သူများ**

ဦးအောင်နိုင်ဦး — အတွင်းရေးမှူး
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

**ဌာနဆိုင်ရာမှ တက်ရောက်ကြသူများ**

ဦးမင်းထိန်
ညွှန်ကြားရေးမှူးချုပ်
မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန

ဦးဝင်းခိုင်မိုး
ညွှန်ကြားရေးမှူးချုပ်
သုတေသနနှင့်တီထွင်ဆန်းသစ်မှုဦးစီးဌာန
သိပ္ပံနှင့်နည်းပညာဝန်ကြီးဌာန

ဦးစိုးဝင်း
ဒုတိယညွှန်ကြားရေးမှူးချုပ်
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဦးထွန်းအောင်သင်း
အထွေထွေမန်နေဂျာ
မြန်မာ့မီးရထား
ရထားပို့ဆောင်ရေးဝန်ကြီးဌာန

ဦးသန်းဝင်း
ညွှန်ကြားရေးမှူး
Mobile Team
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဦးတင်ဦး
ညွှန်ကြားရေးမှူး
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဦးမြတ်ထွန်းကျော်
ညွှန်ကြားရေးမှူး
ကုန်သွယ်မှုမြှင့်တင်ရေးနှင့်စားသုံးသူရေးရာဦးစီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဒေါ်ကြည်ကြည်ဆွေ
ညွှန်ကြားရေးမှူး
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ဒေါ်မြစန္ဒာ
ညွှန်ကြားရေးမှူး
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ဒေါက်တာမင်းဇော်ဦး
ဒုတိယညွှန်ကြားရေးမှူး
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ဦးထူးအောင်
ဦးစီးအရာရှိ
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဒေါ်ဝင်းမို့မို့အေး
ဦးစီးအရာရှိ
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

## ရည်ရွယ်ချက်

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်ဖြင့် ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင်မြေတွင် ဆောင်ရွက်လျက်ရှိသော သိင်္ဂုတ္တရ ကုန်းတော်နှင့် ဆက်စပ် နယ်မြေတစ်ဝိုက်ရှိ လုပ်ငန်းစီမံကိန်းများအတွက် အစားထိုး မြေနေရာများ ပြန်လည်ချထားပေးနိုင်ရေး၊ ဆက်လက် ဆောင်ရွက်ရန်ကျန်ရှိသည့် ကတိကဝတ်များ ဆောလျင်စွာ ပြီးစီးရေး။

အပိုကဆွေးနွေးချက်များ

၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အတွင်းရေးမှူး ၊ ဦးအောင်နိုင်ဦးမှ ယနေ့ ခေါ်ယူရ
အစည်းအဝေးမှာ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင် မြေတွင် ဆောင်ရွက်မည့် စီမံကိန်
ခု၏ ရပ်ဆိုင်းခဲ့ရသည့် အခြေအနေများအရ နစ်နာခဲ့ရသည့် ကုမ္ပဏီများအတွက် နိုင်ငံတော်သ
အစားထိုး မြေနေရာများ ပြန်လည်ပေးအပ်သွားရန်အတွက် နိုင်ငံတော်သမ္မတရုံးမှ ပြီးပြတ်ေ
ဆောင်ရွက်စေရန် လမ်းညွှန်လာပါကြောင်း၊ စီမံကိန်းရပ်ဆိုင်းခဲ့ရသဖြင့် နစ်နာခဲ့သည့် ကုမ္ပဏီများ
အစားထိုး မြေနေရာများ ပြန်လည်ပေးအပ်သွားရန်နှင့် ပေးသွင်းပြီးသည့် Land Use Prem
ကြေးများအား ပြန်လည် ထုတ်ပေးနိုင်ရန် နှင့် အခြားသော ကတိကဝတ်များ ပေးခဲ့ရပါကြောင်း၊ ကု
များသို့ အစားထိုး မြေနေရာများအတွက် စိတ်ကြိုက် မြေနေရာများ ရွေးချယ်၍ ကော်မရှင်သို့ တင်
အကြောင်းကြားခဲ့ပါကြောင်း၊ ကော်မရှင် ဥက္ကဋ္ဌကိုယ်တိုင် ရွေးချယ် တင်ပြလာသည့် မြေ နေရာ များ
မြေပြင်ကွင်းဆင်း ကြည့်ရှုခဲ့ပါကြောင်း၊ အစားထိုးမြေနေရာများအား ကုမ္ပဏီများမှ ၂ နေရာ ၃
တင်ပြခြင်းများလည်း ရှိပါကြောင်း၊ ကော်မရှင်မှ ယင်းတင်ပြချက်များအပေါ် နိုင်ငံတော်သမ္မတထံ
လမ်းညွှန်မှု ခံယူခဲ့ပါကြောင်း၊ ၎င်းနောက် သက်ဆိုင်သည့် မြေပိုင်ရှင်များဖြစ်သည့် သိပ္ပံနှင့် နည်းပ
ဝန်ကြီးဌာန၊ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနတို့နှင့် သက်ဆိုင်ရာ ကုမ္ပဏီများ ညှိနှိ
များ ပြုလုပ်ခဲ့ပါကြောင်း၊ ယခုအခါ နိုင်ငံတော်သမ္မတရုံး၏ ညွှန်ကြားချက်နှင့်အညီ ကုမ္ပဏီမျ
သက်ဆိုင်ရာ မြေပိုင်ရှင် ဌာနဆိုင်ရာ တို့၏ ညှိနှိုင်းပြီးသည့် မြေနေရာများအား လွှဲပြောင်းနိုင်ရေးအ
ပြီးပြတ်အောင် ဆောင်ရွက်ရန်အတွက် ဆွေးနွေးညှိနှိုင်းခြင်းဖြစ်ပါကြောင်း ပြောကြားပါသည်။

၃။ ဆက်လက်၍ ကော်မရှင် အတွင်းရေးမှူး ၊ ဦးအောင်နိုင်ဦးမှ နိုင်ငံတော်သမ္မတရုံး၏ ညွှန်ကြား
တွင် ပါရှိသည်မှာ သိပ္ပံနှင့် နည်းပညာဝန်ကြီးဌာနပိုင် မြေဖြစ်သည့် ကမ္ဘာအေးဘုရားလမ်းနှင့် ကံဘဲ့
ထောင့်ရှိ မြေ ၃၅.၃၈၅ ဧက အနက်မှ ၁၇.၇၀ ဧကအား နိုင်ငံခြား ကုမ္ပဏီဖြစ်သည့် Marga Landm
Company သို့ လွှဲပြောင်းပေးရန်၊ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနပိုင် မြေဖြစ်
စိန်ဂျွန်းအုပ်စု သိုလှောင်ရုံ၊ ကုန်သွယ်ရေးဝင်းအတွင်းရှိ မြေ ၁၁.၆၆၃ ဧက အနက်မှ ၅၀ % ဖြစ်
၅.၈၃၁ ဧကအား Thu Kha Yadanar Company သို့ လွှဲပြောင်းပေးရန် နှင့် ကျန်တစ်ဝက်
Adventure Myanmar Tours & Incentives Company သို့ လွှဲပြောင်းပေးရန်၊ မြန်မာ့မီးရထ
ရုံးချုပ် မြေနေရာဖြစ်သည့် မြေ ၃.၀၀ ဧကအား Shwe Taung Development Company
လွှဲပြောင်းပေးရန် ပါရှိကြောင်းနှင့် အမြန်ဆုံး လွှဲပြောင်းပေးနိုင်ရေး ဆက်လက် ဆောင်ရွက
ဖြစ်ပါကြောင်း၊ မြန်မာ့မီးရထားပိုင် မြေနေရာသည် ယခင် တင်ဒါ အောင်ထားပြီး တင်ဒါအောင်
ကုမ္ပဏီမှာ ၎င်းတို့အချင်းချင်း အရှုပ် အရှင်းဖြစ်ပေါ်၍ တင်ဒါပယ်ဖျက်၍ ရန်ကုန်တိုင်းဒေသကြီးအစိုး
ထိန်းသိမ်းထားပါကြောင်း၊ ဥက္ကဋ္ဌမှ လမ်းညွှန်ခဲ့သည်မှာ သိပ္ပံနှင့် နည်းပညာဝန်ကြီးဌာနမှ လွှဲပြောင်း
မည့် မြေနေရာများ နှင့်စပ်လျဉ်း၍ ဌာနမှ နိုင်ငံတော်သို့ မြေ ပြန်လည် အပ်နှံပြီးမှသာ မြို့ရွာ
အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနသို့ လွှဲပြောင်း၍ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် Marga Landm
Company တို့ စာချုပ် ချုပ်ဆိုရမည် ဖြစ်ပါကြောင်း၊ သို့ဖြစ်၍ Cabinet သို့တင်ပြသည့် စာ
မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနသို့ လွှဲပြောင်းမည်ဖြစ်ကြောင်းထည့်ပါ ထည့်သွင်း ဖော်ပြရန်

ကြောင်း၊ Marga Landmark Company နှင့် ဌာနတို့ ညှိနှိုင်းချက်အရ ဌာနမှ စွန့်လွှတ်ရမည့် အဆောက်အဦများနှင့်စပ်လျဉ်း၍ US$ ၅ သန်း တန်ဖိုး ရှိသည့် ဓါတ်ခွဲခန်း တစ်ခန်းနှင့် စတုရန်းမီတာ ၂၀,၀၀၀ အဆောက်အဦတစ်လုံးအား ကုမ္ပဏီမှ ဆောင်ရွက်ပေးရန် ကိစ္စကို သီးခြားလှူဒါန်းမှုအနေဖြင့် ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ သိပ္ပံနှင့် နည်းပညာဝန်ကြီးဌာနမှ မြေလွှဲပြောင်းခြင်း ကိစ္စအား ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြရန်နှင့် အဆိုပါ တင်ပြရာတွင် နိုင်ငံတော်သို့ မြေပြန်လည် အပ်နှံပါကြောင်းနှင့် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနသို့ မြေ ပြန် လည် လွှဲပြောင်းခွင့်ပြုရန်ကိုပါ တစ်ပါတည်း ဖော်ပြပေးရန် ဖြစ်ပါကြောင်း၊ ဆောလျင်စွာ ပြီးစီးနိုင်ရေး ဖြစ်ပါကြောင်း၊ မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနမှ မြေ လွှဲပြောင်း လက်ခံ ရရှိပြီးပါက ကုမ္ပဏီနှင့် စာချုပ်ချုပ်ဆိုရာတွင် သိပ္ပံနှင့် နည်းပညာဝန်ကြီးဌာနသို့ ကုမ္ပဏီမှ လှူဒါန်း ဆောင်ရွက်ပေးမည့် အဆောက်အဦများအား ထည့်သွင်း ဖော်ပြရန် ဖြစ်ပါကြောင်း ပြောကြားပါသည်။

၄။ သိပ္ပံနှင့် နည်းပညာဝန်ကြီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးဝင်းခိုင်မိုးမှ Marga Landmark Company နှင့် မိမိတို့ ဌာနမှ ညှိနှိုင်းချက်မှာ ကုမ္ပဏီမှ လှူဒါန်း၍ ဆောင်ရွက်ပေးမည့် In Kind အနက် ဓါတ်ခွဲခန်းမှာ US$ ၁၀ သန်း တန်ဖိုး ရှိသည်ဟု သိရှိပါကြောင်း နှင့် ကုမ္ပဏီသို့ ပေးရမည့် မြေနေရာတွင် တရားရုံး၊ EPC ရုံး၊ စာရင်းစစ်ရုံး တို့ရှိနေပါကြောင်း၊ ယင်း ရုံးမြေနေရာများအား ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့မှ တာဝန်ယူ လွှဲပြောင်းပေးရန် လိုအပ်ပါကြောင်း၊ CSR ၁ % အတွက် ကုမ္ပဏီမှ လှူဒါန်း ဆောင်ရွက်ပေးခြင်း ရှိ-မရှိ မေးမြန်း ဆွေးနွေးပါသည်။

၅။ ကော်မရှင် အတွင်းရေးမှူး ဦးအောင်နိုင်ဦးမှ ရှင်းလင်း ဖြေကြားသည်မှာ ကော်မရှင် ဥက္ကဋ္ဌ နှင့် နိုင်ငံတော်သမ္မတတို့ ညှိနှိုင်းချက်အရ CSR ၁ % ပါဝင်ခြင်း မရှိပါကြောင်းနှင့် ဓါတ်ခွဲခန်းမှာ US$ ၅ သန်း တန်ဖိုးဖြင့်သာ ဆောင်ရွက်ပေးစေရန် ညွှန်ကြားထားပါကြောင်း၊ သိပ္ပံနှင့်နည်းပညာဝန်ကြီးဌာနမှ ပိုင်ဆိုင်သည့် မြေနေရာတွင် တည်ရှိနေသည့် တရားရုံး၊ EPC ရုံး၊ စာရင်းစစ်ရုံး တို့အား ပြန်လည် လွှဲပြောင်းရေး နှင့် မြေတိုင်းတာ သတ်မှတ်ပေးရေး ကိစ္စတို့အား တင်ပြစေလိုပါကြောင်း၊ ကော်မရှင်မှ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဆက်လက်၍ ညှိနှိုင်းပေးမည် ဖြစ်ပါကြောင်း ပြောကြားပါသည်။

၆။ ကော်မရှင် အတွင်းရေးမှူး ဦးအောင်နိုင်ဦးမှ ဆက်လက် ပြောကြားသည်မှာ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနမှ အင်ဂျင်နီယာကောင်စီသို့ ပေးရမည့် မြေဧရိယာ(၁.၄၆၁)ဧကတွင် အဆောက်အဦများ တည်ဆောက် ပြီးစီးနေပါက ယင်းအခြေအနေအား ဥက္ကဋ္ဌထံ တင်ပြမည်ဖြစ်ပါကြောင်း၊ အင်ဂျင်နီယာ ကောင်စီသို့ ပေးရမည့် ယင်း မြေနေရာအား ချန်လှပ်ထားပြီး ကျန်ရှိသည့် မြေဧရိယာအား ကုမ္ပဏီ(၂)ခုသို့ ညီတူ ညီမျှ ခွဲဝေပေးရန် နှင့် အဆိုပါ နေရာကို မချန်လှပ်ဘဲ ထည့်သွင်းခွဲဝေခြင်းစသည့် နည်းလမ်း နှစ် ခုဖြင့် စဉ်းစားပေးစေလိုပါကြောင်း၊ အဝင်လမ်း အထွက်လမ်းများ တွက်ချက်၍ အညီအမျှ ဆောင်ရွက်ပေးရမည် ဖြစ်ပါကြောင်း၊ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနမှ မြေနေရာ လွှဲပြောင်းခြင်းအား ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြရန် မလိုတော့ကြောင်းနှင့် ကုမ္ပဏီနှင့် စာချုပ်ချုပ်ဆိုပြီး ဆောင်ရွက်ရန်သာ ဖြစ်ပါကြောင်း ပြောကြားပါသည်။

၇။ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန ဒုတိယညွှန်ကြားရေးမှူးချုပ် ဦးစိုးဝ
ကုန်သွယ်မှု မြှင့်တင်ရေးနှင့် စားသုံးသူရေးရာဦးစီးဌာနပိုင် မြေဧရိယာအနက် ကျန်ရှိသည့် မြေဧရိယာ
(၁၁.၆၆၄)ဧက ဖြစ်ပြီး (၁.၄၆၁)ဧကအား အင်ဂျင်နီယာကောင်စီသို့ ပေးအပ်ထားပါကြောင်း၊ ယင်း
နေရာ (၁.၄၆၁) ဧက နေရာတွင် ယခုအခါ အဆောက်အဦ ဆောက်လုပ်ရန် Bole Pile များ ဆောင်ရွ
ခြင်း၊ မြဲစည်းရိုး ကာရံခြင်းများ ဆောင်ရွက်နေပြီဖြစ်ပါကြောင်း၊ Trade Taxi နေရာတွင် အဆော
အဦ(၃)လုံး ရှိပါကြောင်း၊ ဝန်ထမ်းအိမ်ရာအတွက် မြေချန်လှပ်ထားရှိရန် လိုပါကြောင်း၊ လက်ရှိ ဖမ်းဆီး
ပစ္စည်းများ သိုလှောင်ထားသည့် ဂိုဒေါင်များကိုပါ လွှဲပေးရမည်ဖြစ်ရာ အဆိုပါပစ္စည်းများကို နာဂလိုဏ်
သိုလှောင်ရုံ ဝင်းသို့ ရွှေ့ရမည် ဖြစ်၍ အဆိုပါ ဂိုဒေါင်များကို ပြင်ဆင်ပေးစေလိုပါကြောင်း (သို့မဟုတ
အဆောက်အဦ ကုန်ကျစရိတ်များအတွက် ကုမ္ပဏီများထံမှ ကျခံပေးရန် တောင်းဆိုလိုပါ ကြောင်း၊ မြေ
ငှားရမ်းခြင်း သက်တမ်းကာလအား မည်သည့် ကာလဖြင့် ချုပ်ဆိုရမည်ကို သိလိုကြောင်းနှင့် ကော်မရှင်
ဆောင်ရွက်ရမည့် အစီအစဉ်များအား အကြောင်းကြားစာ ထုတ်ပြန်ပေးရန် လိုပါကြောင်း ဆွေးနွေး
သည်။

၈။ ကော်မရှင် အတွင်းရေးမှူး ဦးအောင်နိုင်ဦးမှ အဆိုပါကိစ္စကို သက်ဆိုင်ရာ ကုမ္ပဏီများနှင့် ဝန်ကြီး
ဌာနက ညှိနှိုင်းစေလိုကြောင်း၊ Shwe Taung Development Company သို့ လွှဲပြောင်းပေးရမည့်
မြန်မာ့မီးရထားမြေမှာ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့သို့ ၂၀၀၈ ခုနှစ်ကတည်းက လွှဲပြောင်းပေးပြီး
ဖြစ်၍ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် ကုမ္ပဏီတို့ စာချုပ် ချုပ်ဆို၍ ဆက်လက် ဆောင်ရွက်ရန်
သာ လိုအပ်ပါကြောင်း၊ ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြရန် မလိုတော့ကြောင်းနှင့် နိုင်ငံတော်သမ္မတ
ရုံးမှ ညွှန်ကြားချက်စာအား ရည်ညွှန်း၍ ဆောင်ရွက်သွားရန်ဖြစ်ကြောင်း ပြောကြားပါ သည်။

၉။ ကော်မရှင် အတွင်းရေးမှူး ဦးအောင်နိုင်ဦးမှ ဆက်လက်၍ ကုမ္ပဏီများမှ အဆောက်အဦ
ဖျက်သိမ်းရာတွင် ကုန်ကျစရိတ် များ၊ အလုပ်သမား/ ဝန်ထမ်း လစာ စရိတ်များကြောင့် နစ်နာခဲ့ရမှု
များစွာရှိပါကြောင်း၊ နိုင်ငံတော်ဘက်မှ ကတိကဝတ် နှင့် အညီ ကုမ္ပဏီများမှ ပေးသွင်းထားသည့် L.U.P
ကြေးများအား ထုတ်ပေးနိုင်ရေးအတွက် လွှတ်တော်သို့ တင်ပြထားပြီး ဖြစ်ပါကြောင်း၊ ကော်မရှင်မှ ယခင်
ခွင့်ပြုပေးခဲ့သည့် မြေငှားရမ်းခနှုန်းထားများမှာ တစ်စတုရန်းမီတာလျှင် US$ ၁၅ နှုန်းဖြင့်လည်းကောင်း
(ငှားရမ်းခ သတ်မှတ်ချက်မှာ အဆောက်အဦ၏ Lettable Area ပေါ်တွင် အခြေခံ၍ တွက်ချက်ခြင်း
ဖြစ်ပါကြောင်း)နှင့် L .U.P နှုန်းထားတို့မှာ တစ်ဧက လျှင် US$ ၂ သန်း ဖြစ်ပါကြောင်း၊ ကော်မရှင်မှ
အစားထိုး မြေနေရာများ၏ မြေငှားရမ်းခ နှုန်းထား များ နှင့် L.U.P နှုန်းထားများအား ဥက္ကဋ္ဌ ထံ တင်ပြပြီး
သတ်မှတ်ပေးမည် ဖြစ်ပါကြောင်း၊ ကော်မရှင်မှ မျှော်မှန်း ထားသည်မှာ မြေနေရာ အစားထိုး
ပေးအပ်ရေးအပေါ် ဒီဇင်ဘာလတွင် အပြီး ဆောင်ရွက်၍ စာချုပ် ချုပ်ဆိုနိုင်ရေး နှင့် ၂၀၁၆ ခုနှစ်
ဇန်နဝါရီလတွင် ကုမ္ပဏီများအား ခွင့်ပြုမိန့် ထုတ်ပေးနိုင်ရေး ဖြစ်ပါကြောင်း၊ ကုမ္ပဏီများနှင့် မြေပိုင်ရှင်
ဌာနဆိုင်ရာတို့ စာချုပ် ချုပ်ဆိုရာတွင် ငှားရမ်းခ ပေးသွင်းခြင်း နှင့်ဝင်လျှော်၍ မြန်မာနိုင်ငံ[illegible]
ကုမ္ပဏီများအား အမေရိကန်ဒေါ်လာအပေါ် ကာလပေါက်ဈေး မြန်မာ ကျပ်ငွေဖြင့် ပေးသွင်းနိုင်ရန်

လိုအပ်ပါကြောင်း၊ မြေငှားရမ်းခြင်း သက်တမ်းကာလမှာ ကနဦး နှစ် ၅၀ ဖြစ်ပြီး သက်တမ်းတိုး ၁၀ (၂)ကြိမ် ဖြင့် ချုပ်ဆိုရမည်ဖြစ်ကြောင်း ရှင်းလင်း ပြောကြားပါသည်။

၁၀။ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးမင်းထိန်မှ မြေတိုင်းတာရေး ကိစ္စ အား မိမိတို့ ဌာနမှ တာဝန်ယူ ဆောင်ရွက်ပေးမည်ဖြစ်ပါကြောင်းနှင့် ဌာနသို့ ဆက်သွယ် အကြောင်း ပါရန် ပြောကြားပါသည်။

၁၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အတွင်းရေးမှူး ၊ ဦးအောင်နိုင်ဦးမှ နိဂုံးချုပ် ပြော သည်မှာ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် မြို နှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနတို့မှ ကုမ္ပဏီများနှင့် ညှိနှိုင်းပြီးနောက် ကော်မရှင်သို့ ကုမ္ပဏီမှ အဆိုပြု တင်ပြရာတွင် အပေါ်စာ ဆောင်ရွက်ပေးရန် လိုပါကြောင်း၊ ဥက္ကဋ္ဌ ပြည်ပခရီးစဉ်မှ ပြန်လည် ရောက် နောက်ပိုင်းတွင် ဆောင်ရွက်ရမည့် လုပ်ငန်းစဉ်များအား အကြောင်းကြားပေးမည် ဖြစ်ပါကြေ ပြောကြားပါသည်။

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|
| ၁၂။ အစည်းအဝေးမှ အောက်ပါတို့ကို ဆုံးဖြတ်ပါသည်- | |
| (က) သိပ္ပံနှင့်နည်းပညာဝန်ကြီးဌာနမှ မြေ လွှဲပြောင်းပေးနိုင်ရေးအတွက် ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြရန် နှင့် တင်ပြသည့် အမှာစာတွင် မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာနသို့ လွှဲပြောင်းမည် ဖြစ်ကြောင်းကိုပါ ထည့်သွင်း ဖော်ပြရန်။ | သိပ္ပံနှင့်နည်းပညာ ဝန်ကြီးဌာန |
| (ခ) စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနမှ Thu Kha Yadanar Company နှင့် Adventure Myanmar Tours & Incentives Company တို့နှင့် မြေငှား စာချုပ် ချုပ်ဆိုနိုင်ရေး ဆောလျင်စွာ ညှိနှိုင်း ဆောင်ရွက်ရန်။ | စီးပွားရေးနှင့် ကူးသန်းရောင်းဝယ ရေးဝန်ကြီးဌာန |
| (ဂ) သိပ္ပံနှင့်နည်းပညာဝန်ကြီးဌာနပိုင် ကမ္ဘာအေးဘုရားလမ်းနှင့် ကံဘဲ့ လမ်းထောင့်ရှိ မြေ(၃၅.၃၈၅)ဧက အနက် (၁၇.၇၀)ဧက နှင့် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန ပိုင်ဆိုင်သည့် လမ်းမတော်မြို့နယ်၊ အမှတ်(၂၉)၊ မင်းရဲကျော်စွာလမ်း၊ ကကခ(၁)၊ စိန်ဂွန်း အုပ်စုသိုလှောင်ရုံ၊ မြန်မာ့ လယ်ယာထွက်ကုန်ပစ္စည်း ရောင်းဝယ်ရေးလုပ်ငန်း၊ ကုန်သွယ်ရေးဝင်းအတွင်းရှိ မြေ (၁၁.၆၆၃)ဧက တို့၏ မြေ တိုင်းတာခြင်း၊ ခွဲဝေ သတ်မှတ်ခြင်းများ အား မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ဆောင်ရွက်ပေးရန်။ | မြို့ရွာနှင့်အိုးအိမ်ဖွံ့ ဖြိုးရေးဦးစီးဌာန<br>ဆောက်လုပ်ရေး ဝန်ကြီးဌာန |

(ဃ) သိပ္ပံနှင့် နည်းပညာ ဝန်ကြီးဌာနမှ လွှဲပြောင်းသည့် မြေကို မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ လက်ခံ ရရှိပြီးပါက Marga Landmark Development Co., Ltd. နှင့် မြေငှားစာချုပ် ချုပ်ဆိုနိုင်ရေးအတွက် ညှိနှိုင်းဆောင်ရွက်ရန်။

(င) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ Shwe Taung Development Co., Ltd. နှင့် မြေငှားစာချုပ် ချုပ်ဆိုနိုင်ရေး အတွက် ဆောလျင်စွာ ညှိနှိုင်း ဆောင်ရွက်ရန်။

မြို့ပြနှင့်အိုးအိ
ဖွံ့ဖြိုးရေးဦးစီးဌ

ရန်ကုန်တိုင်းဒေ
ကြီးအစိုးရအ

၁၃။ အစည်းအဝေးကို မွန်းလွဲ(၁၆:၀၀) နာရီတွင် ရုပ်သိမ်းပါသည်။

မှတ်တမ်းတ

(မြ
ညွှန်ကြားရေ

စာအမှတ်၊ ရက-၄/ ထွေ / ၂၀၁၅ ( ၉၁၈ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၂၃ ရက်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ပြည်ထောင်စုရှေ့နေချုပ်ရုံး
## နေပြည်တော်

စာအမှတ်၊ ၂(၅) ၄ - ၁၆ / နပတ( ၁၁၅ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ဖေဖော်ဝါရီလ ၄ ရက်

အကြောင်းအရာ။ **Build, Operate & Transfer Contract (BOT) စနစ်ဖြင့် ဆောင်ရွက်မည့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)အပေါ် သဘောထား မှတ်ချက်တောင်းခံခြင်း ကိစ္စ**

ရည် ညွှန်း ချက် ။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာ အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ ၂၇-၁-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရ/ ပဆရ/ သုခရတနာ / ၂၀၁၆ (၀၀၆၆)

၁။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ အမှတ် (၂၉)မင်းရဲကျော်စွာလမ်း၊ ကကခ-(ခ)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံ၊ မြေ(၉.၉၆)ဧက အနက်မှ (၄.၉၈) ဧကအား ဟိုတယ်၊ လူနေအိမ်၊ ရုံးခန်း၊ ဆိုင်ခန်းစသည့်လုပ်ငန်းများဆောင်ရွက်ရန်အတွက် THUKHA YADANAR Co., Ltd သို့ BOT စနစ်ဖြင့် ငှားရမ်းရန် ချုပ်ဆိုမည့် မြေငှားရမ်းခြင်းစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက် ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာစဉ်တွင် သိင်္ဂုတ္တရကုန်းတော်နှင့် ဆက်စပ်နယ်မြေတစ်ဝိုက်ရှိ စီမံကိန်းများရပ်ဆိုင်းခဲ့ရမှုနှင့်စပ်လျဉ်း၍ THUKHA YADANAR Co., Ltd ထံသို့ ယခုစာချုပ် (မူကြမ်း)ပါ မြေနေရာအား အစားထိုးငှားရမ်းခြင်းဖြစ်ကြောင်း ဖော်ပြတွေ့ရှိရပါသည်။ သို့ဖြစ်ပါ၍ ယင်းကိစ္စနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း ဦးစွာအကြံပြုအပ်ပါသည် -

(က) 9.4.2014 ရက်စွဲပါ The Quarter Master General Office, Office of

the Commander – in – Chief (Army) နှင့် THUKHA YADANAR Co., Ltd and Marga Landmark Development Co., Ltd တို့အကြား ချုပ်ဆိုခဲ့သည့် English Version စာချုပ်၊ ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း) စစ်ထောက်ချုပ်ရုံးနှင့် THUKHA YADANAR Co., Ltd တို့အကြား ချုပ်ဆိုခဲ့သည့် Myanmar Version စာချုပ် စုစုပေါင်းစာချုပ် (၂)ရပ်အပေါ် အစားထိုးချုပ်ခြင်းဖြစ်သောကြောင့် ယင်းစာချုပ်တို့အား ဦးစွာ ရုပ်သိမ်းရုပ်စဲရန်လိုအပ်ပါသည်၊

(ခ) ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးနှင့် ချုပ်ဆိုခဲ့သောစာချုပ်တွင် တစ်ဖက်စာချုပ်ဝင်များမှာ Marga Landmark Development Co., Ltd နှင့် THUKHA YADANAR Co., Ltd တို့ဖြစ်သောကြောင့် အဆိုပါ စာချုပ်အရ ဆောင်ရွက်ရမည့်တာဝန်များမှာ ၎င်းတို့တွင် ပူးတွဲတာဝန်ရှိသော ကြောင့် ယင်းတာဝန်ဝတ္တရားများကို ၎င်းတို့အချင်းချင်းကြား အပြီးအပြတ် ဆောင်ရွက်ရှင်းလင်းပြီးဖြစ်ရန် လိုအပ်မည်ဖြစ်ပါသည်၊

(ဂ) ထိုသို့ရုပ်သိမ်းရုပ်စဲခြင်း၊ အစားထိုးဆောင်ရွက်ခြင်းနှင့်စပ်လျဉ်းသော စည်းကမ်းချက်များအား ယခုစာချုပ်(မူကြမ်း)၏ Whereas အပိုဒ်တွင် ရှင်းလင်းစွာဖော်ပြသင့်ပါသည်။

၃။ ရည်ညွှန်းစာနှင့်အတူ ပူးတွဲပေးပို့လာသော BOT စာချုပ်(မူကြမ်း)အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည်-

(က) စာချုပ်(မူကြမ်း)ပါ ဆောင်ရွက်လုပ်ကိုင်မည့်မြေနေရာကို စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနပိုင်ဟု စာစဉ်တွင်ဖော်ပြထားသော်လည်း ၎င်းမြေအားငှားရမ်း လက်မှတ်ရေးထိုးမည့် စာချုပ်ဝင်ဌာနမှာ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ်

ဖြစ်ကြောင်း ဖော်ပြတွေ့ရှိချက်များအရ ဆောက်လုပ်ရေးဝန်ကြီးဌာနအနေဖြင့် ယင်းမြေငှားရမ်း ချုပ်ဆိုပိုင်ခွင့်ကို လွှဲပြောင်းရရှိထားကြောင်း၊ လက်မှတ်ရေးထိုးချုပ်ဆိုပိုင်ခွင့်ရှိကြောင်း စသည့်အထောက်အထားများအား ယခုစာချုပ်(မူကြမ်း)၏ နောက်ဆက်တွဲအဖြစ် ပူးတွဲဖော်ပြရန်လိုအပ်ပါသည်။ ယင်းစာရွက်စာတမ်း အထောက်အထားများသည် သက်ဆိုင်ရာဌာနမှ တရားဝင်ထုတ်ပြန်ပေးထားသော အထောက်အထားစာရွက်စာတမ်းများဖြစ်ရန် လိုအပ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)၏ စာစဉ်နှင့်အပိုဒ် ၃(ဂ)တွင် ငှားရမ်းမြေဧရိယာမှာ ဧက (၄.၉၈)ဖြစ်ကြောင်း၊ အပိုဒ် ၄ နှင့် ၅(က)တွင် ဧက (၅.၈)ဧကဖြစ်ကြောင်း စသည်ဖြင့် အမျိုးမျိုးကွဲလွဲစွာဖော်ပြထားသောကြောင့် ဧကအမှန်ရေးသားဖော်ပြနိုင်ရေးအတွက် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)၏ အပိုဒ် ၅ နှင့် ၂၄ တို့တွင် ဖော်ပြထားသော မြေပုံ၊ အဆောက်အဦပုံစံစသည့် နောက်ဆက်တွဲများသည် စာချုပ်၏တစ်စိတ်တစ်ဒေသများဖြစ်သောကြောင့် စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်စုံစွာပူးတွဲဖော်ပြရန် လိုအပ်ပါသည်။ ထို့အပြင် အငှားချထားသည့် မြေ၏မြေပုံနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနမှ တရားဝင်ရေးဆွဲထားသော မြေပုံဖြစ်ရန်လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း)၏ အပိုဒ် ၅(ဂ) တွင် ဆောင်ရွက်လုပ်ကိုင်မည့်လုပ်ငန်း၌ အဆင့်မြင့်ဟိုတယ်၊ လူနေအိမ်၊ ဝန်ဆောင်မှုဌာန၊ ရုံးခန်းနှင့် ဈေးစသည့်တို့အား အငှားချထားခြင်းခံရသူ၏စရိတ် ဖြင့် တည်ဆောက်လုပ်ကိုင်ရမည်ဟု ဖော်ပြထားပါသည်။ ၃၁.၁.၂၀၁၄ ရက်စွဲပါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ်၊ ၁/ ၂၀၁၃ ၌ ဟိုတယ်လုပ်ငန်းနှင့်စပ်လျဉ်း၍ ကြယ် ၃ ပွင့်နှင့်အထက်အဆင့်သာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ၁၀၀%

ခွင့်ပြုမည်။ အခြားတွင် JV ဖြင့်သာ ခွင့်ပြုမည်ဖြစ်ကြောင်း ထုတ်ပြန်ထားသည်ကိုသိရှိနိုင်ရန်အတွက် ဖော်ပြအပ်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် ၆ တွင် "မြေအသုံးချမှုပရီမီယံကြေးအား အမေရိကန်ဒေါ်လာ (၉.၉၆)သန်းအား အရစ်ကျပေးသွင်းမည်ဖြစ်ကြောင်းနှင့် မြေငှားရမ်းခအား အမေရိကန်ဒေါ်လာနှင့်ညီမျှသော မြန်မာကျပ်ငွေကို ပေးသွင်းရမည်ဖြစ်ကြောင်း" ဟုဖော်ပြထားပါသည်။ နောင်အရှုပ်ထွေးများ မဖြစ်ပေါ်စေရန်အတွက် ငွေကြေးအမျိုးအစားတစ်မျိုးတည်းကိုသာ အသုံးပြုပေးချေရန် ဖော်ပြသင့်ပါသည်။ ယင်းစည်းကမ်းချက်နှင့်ပတ်သက်၍ ဘဏ္ဍာရေးဝန်ကြီးဌာနနှင့် ကြိုတင်ညှိနှိုင်းထားသင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၆(က-၁) တွင် အငှားချထားခြင်းခံရသူမှ ပေးသွင်းရမည့် စရံငွေအမေရိကန်ဒေါ်လာ (၁.၅)သန်းတိတိကို ဤစာချုပ်(မူကြမ်း) လက်မှတ်ရေးထိုးပြီးနေ့နှင့် ၉-၄-၂၀၁၄ တွင် ကာကွယ် ရေးဝန်ကြီးဌာနနှင့် ချုပ်ဆိုခဲ့သောစာချုပ်အရ ပေးအပ်ခဲ့သောမြေအသုံးချမှု ပရီမီယံကြေးအားငင်းတို့မှ အံပြည့်အဝပြန်လည်ရရှိသောအခါ ပေးသွင်းမည်ဖြစ်ကြောင်းဖော်ပြထားရာ ဌာနအနေဖြင့် လက်ခံနိုင်ခြင်းရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၆ တွင် ငှားရမ်းခနှုန်းထားများ၊ ငွေပေးချေခြင်းနည်းလမ်းများ၊ မြေအသုံးချမှုပရီမီယံကြေးစည်းကမ်းချက်များနှင့် တည်ဆောက်ရေးကာလအားရောထွေးစွာဖော်ပြထားသဖြင့်အပိုဒ် ၆(ဃ)အား တည်ဆောက်ရေးကာလဟူသော သီးခြား ခေါင်းစဉ်ဖြင့် ဖော်ပြရန်လိုအပ်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း)၏ အပိုဒ် ၈(ခ)(ဃ) နှင့် (င) တို့တွင် ဖော်ပြထားသည့် အငှားချထားသူမှ အငှားချထားခြင်းခံရသူသို့ ကူညီထောက်ပံ့ရမည့် လုပ်ငန်းများသည် အခြားဝန်ကြီးဌာနနှင့် သက်ဆိုင်သောကိစ္စရပ်များဖြစ်ပါ၍

သက်ဆိုင်ရာဝန်ကြီးဌာနများနှင့် ကြိုတင်ညှိနှိုင်းထားရန် လိုအပ်မည်ဖြစ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း)၏ မျက်နှာဖုံးနှင့် ခေါင်းစဉ်တို့၌ BOT စနစ်ဖြင့် ငှားရမ်းခြင်း သဘောတူစာချုပ်ဟုဖော်ပြထားသော်လည်း စာချုပ်(မူကြမ်း)တွင် မြေငှားရမ်းခြင်းနှင့်သက်ဆိုင်သည့် စည်းကမ်းချက်များကိုသာ အလေးပေးဖော်ပြထားခြင်းဖြစ်ကြောင်း တွေ့ရှိရပါသည်။ သို့ပါ၍ BOT စာချုပ်အား သီးခြားချုပ်ဆိုရန်လိုအပ်ပြီး BOT စာချုပ်ပါ စည်းကမ်းချက်များသည် မြေငှားစာချုပ်ပါ စည်းကမ်းချက်များနှင့်ညီညွတ်ရန် လိုအပ် ပါသည်၊

(ည) စာချုပ်(မူကြမ်း)ပါ ကွက်လပ်များအား စာချုပ်ချုပ်ဆိုချိန်တွင် ဖြည့်စွက်ပြီးဖြစ်ရန် လိုအပ်ပါသည်၊

(ဋ) လိုအပ်သောနေရာများတွင် မင်နီဖြင့် ရေးသားပေးလိုက်ပါသည်။

၄။ တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရအစိုးရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့်သို့မဟုတ် သက်သာခွင့်မရရှိသေးလျှင် ကျသင့်သောတံဆိပ်ခေါင်းခွန်ကို အငှားချထားခြင်းခံရသူက ထမ်းဆောင်ရမည်ဖြစ်ပါသည်၊

၅။ ဤစာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့်မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၆။ THUKHA YADANAR Co., Ltd သည် သက်ဆိုင်ရာနိုင်ငံ၏ တည်ဆဲဥပဒေအရ တရားဝင်ဖွဲ့စည်းထားသောကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကိုလုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေး အင်အားပြည့်စုံမှု ရှိ မရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူသည်

တရားဝင်လွဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည့်အချက်များနှင့်စပ်လျဉ်း၍ ကြိုတင်စိစစ်ရန် လိုအပ်မည်ဖြစ်ပါသည်။

၇။ ဤစာချုပ်(မူကြမ်း)ကိုလက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၈။ ဤ အကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန် ဖြစ်ပါသည်။

(ကျော်ဆန်း)

ညွှန်ကြားရေးမှူးချုပ်(တာဝန်)

မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

မိတ္တူ - ရုံးလက်ခံ/ မျှောစာတွဲ

**THU KHA YADANAR COMPANY LIMITED.**
Room (B), Business Center, City Golf Resort Hotel, Thirimingalar Road,
Ywarma, Insein, Yangon.
Phone 95-1-641763~7 Fax : 95-1-641701

သို့

ညွှန်ကြားရေးမှူးချုပ်
မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
နေပြည်တော်။

စာအမှတ် ။ ။ 05 / TKY / 2016.
ရက်စွဲ ။ ။ ၂၀၁၆-ခုနှစ်၊ ဖေဖော်ဝါရီလ( ၈ )ရက်

အကြောင်းအရာ ။ ။ **ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ အမှတ်-(၂၉)၊ မင်းရဲကျော်စွာလမ်း၊ ကကခ(၁)၊ စိန်ဂျွန်းအုပ်စုသိလျောင်ရုံ ဝင်းအတွင်းရှိ မြေ(၄.၉၈)ကေပေါ်တွင် ဆောင်ရွက်မည့် လုပ်ငန်းများအား အဆိုပြုတင်ပြခြင်း။**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ အမှတ်-(၂၉)၊ မင်းရဲကျော်စွာလမ်း၊ ကကခ(၁)၊ စိန်ဂျွန်းအုပ်စုသိလျောင်ရုံ ဝင်းအတွင်းရှိ မြေ(၄.၉၈)ကေအား Thu Kha Yadanar Co.,Ltd မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံသို့ တင်ပြမည်ဖြစ်ပြီး ဆောင်ရွက်မည့်လုပ်ငန်းအား အောက်ပါအတိုင်း အဆိုပြုတင်ပြအပ်ပါသည်။

| | | | |
|---|---|---|---|
| (က) | ကုမ္ပဏီအမည် | - | Thu Kha Yadanar Co.,Ltd |
| (ခ) | အဆိုပြုမြေနေရာ | - | ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ အမှတ်-(၂၉)၊ မင်းရဲကျော်စွာလမ်း၊ ကကခ(၁)၊ စိန်ဂျွန်းအုပ်စုသိလျောင်ရုံ ဝင်းအတွင်းရှိ မြေ(၄.၉၈)ကေ။ |
| (ဂ) | ဆောင်ရွက်မည့်လုပ်ငန်း | - | Residential and Club House |
| (ဃ) | ရင်းနှီးမြှုပ်နှံမှုပမာဏ | - | အမေရိကန်ဒေါ်လာ(၅၄.၁၉)သန်း အပါအဝင် မြန်မာကျပ်ငွေ(၈၂,၈၉၆)သန်း ရင်းနှီးမြှုပ်နှံပါမည်။ |
| (င) | ငှားရမ်းလိုသည့်နှစ် | - | (၅၀+၁၀+၁၀) နှစ်(၇၀) (B.O.T)စနစ်။ |

၂။ အထက်ဖော်ပြပါ လုပ်ငန်းများဆောင်ရွက်ရန်အတွက် မြေအသုံးချခနှင့် နှစ်စဉ်မြေငှားရမ်းခများကို အောက်ပါအတိုင်း ပေးသွင်းမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

(ဂ) **မြေအသုံးချခ။** မြေ(၄.၉၈)ဧကအတွက် မြေအသုံးချမှုပရီမီယံကြေးအား မြေ(၁)ဧကလျှင် အမေရိကန်ဒေါ်လာ(၂)သန်းနှုန်းဖြင့် စုစုပေါင်းအမေရိကန်ဒေါ်လာ(၉.၉၆)သန်းအား စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ စ၍ (၄)ကြိမ်ခွဲပြီး ပေးသွင်းသွားမည်ဖြစ်ပါသည်။

(ခ) **မြေငှားရမ်းခပေးချေမှု။** တည်ဆောက်ရေးကာလ Phase I အတွက် (၃)နှစ်၊ Phase II အတွက် (၃)နှစ်စီ မြေငှားရမ်းခကင်းလွတ်ခွင့်ပြုပါရန်နှင့် မြေငှားရမ်းခ (၁ စ/မီတာ)လျှင် အမေရိကန်ဒေါ်လာ(၁၅)နှုန်းဖြင့် စုစုပေါင်းခွင့်ပြုကာလ နှစ်(၇၀)အတွက် မြေငှားရမ်းခများကို ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနသို့ ပေးသွင်းသွားမည်ဖြစ်ပါကြောင်း လေးစားစွာဖြင့် အဆိုပြုတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(signature)

**U THAUNG HTIKE MIN**
**MANAGING DIRECTOR**
**THU KHA YADANAR CO., LTD.**

မိတ္တူကို

- ရုံးလက်ခံ။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်ထဲရေးဝန်ကြီးဌာန

**အမိန့်ကြော်ငြာစာ (၂၇၁ / ၂၀၁၆ )**

နေပြည်တော်၊ ၁၃၇၇ ခုနှစ်၊ ပြာသိုလပြည့်ကျော် ၉ ရက်

( ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂ ရက် )

**အမှတ်။** ပြည်ထဲရေးဝန်ကြီးဌာန၏ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၃၀ ရက်စွဲပါအမိန့်ကြော်ငြ
အမှတ် (၁၈၇၆/ ၂၀၁၅) ဖြင့် နိုင်ငံတော်ပိုင်မြေအဖြစ် သတ်မှတ်ခဲ့သော ရန်ကုန်တိုင်းဒေသ
ရန်ကုန်အနောက်ပိုင်းခရိုင်၊ လမ်းမတော်မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (၂၀ အေ၊ ၄၆
မြေကွက်အမှတ် (၂-A/၂၊ ၂/၂၊ ၈-A) မှ **မြေဧရိယာ (၁၁.၆၆၃)ဧကအား** မြေနှင့်အခွန်အ
ဆင့်ဆိုချက် ၃၃၂ အရ ဆောက်လုပ်ရေးဝန်ကြီး ဌာနသို့ အခမဲ့လွှဲပြောင်းပေးလိုက်သည်။

အခမဲ့လွှဲပြောင်းပေးသောမြေဧရိယာ (၁၁.၆၆၃)ဧကကို ဆောက်လုပ်ရေးဝန်ကြီးဌ
အသုံးမပြုသောနေ့တွင် နိုင်ငံတော်သို့ ပြန်လည်အပ်နှံရမည်။

**ဒုတိယဗိုလ်ချုပ်ကြီးက**

**ပြည်ထောင်စုဝန်ကြ**

စာအမှတ်၊ ပထရ / ၂ - ၃ ( ၂၇၁ ) / ထောက် ၂

ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂ ရက်

**ဖြန့်ဝေခြင်း**

၁။ ပြည်ထောင်စုဝန်ကြီး၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊

၂။ ဝန်ကြီးချုပ်၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊

၃။ ဥက္ကဋ္ဌ၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

၄။ ညွှန်ကြားရေးမှူးချုပ်၊ အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊
(အမှုတွဲနှင့်အတူ ပူးတွဲပေးပို့ပါသည်)

၅။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန၊

၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ ပုံနှိပ်ရေးနှင့်စာအုပ်ထုတ်ဝေရေးလုပ်ငန်း၊ (ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ပြန်တမ်းတွင် ထည့်သွင်းကြေညာပေးပါရန်)

၇။ အုပ်ချုပ်ရေးမှူး၊ ရန်ကုန်တိုင်းဒေသကြီးအထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊

၈။ ဌာနမှူး၊ မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

၉။ ညွှန်ကြားရေးမှူး၊ ရန်ကုန်တိုင်းဒေသကြီးမြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန၊

၁၀။ အုပ်ချုပ်ရေးမှူး၊ ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊

၁၁။ အုပ်ချုပ်ရေးမှူး၊ လမ်းမတော်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊

၁၂။ လှည့်လည်စာတွဲ၊

၁၃။ ရုံးလက်ခံ။

အမိန့်အရ

(ပုံ) ၂၂

ပြုံးချို

ခေတ္တအမြဲတမ်းအတွင်းဝန်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**အဆိုပြုချက်စိစစ်ရေးအဖွဲ့**

စာအမှတ်၊ရကက-၄/မ-၁၅၃၄/၂၀၁၆( ၂၀၄ )

ရက်စွဲ၊ ၂၀၁၆ခုနှစ် ဖေဖော်ဝါရီလ ၁၀ ရက်

**အဆိုပြုချက်စိစစ်ရေးအဖွဲ့သို့တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Thu Kha Yadanar Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်း ဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံရှိ မြေ(၄.၉၈)ဧက တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံးနှင့် Club House Building (၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ Thu Kha Yadanar Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊အမှတ်(၂၉)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံရှိ မြေ(၄.၉၈)ဧက တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးသောင်းထိုက်မင်း မှ ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ကော်မရှင်ရုံးအဖွဲ့မှ Check List ဖြင့်စိစစ်ခဲ့ပြီးCheck List ပါ လိုအပ်ချက်များအားပြည့်စုံစွာထပ်မံပေးပို့ပါရန် ကုမ္ပဏီသို့ ပြောကြားပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ Thu Kha Yadanar Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊အမှတ်(၂၉)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံရှိ မြေ(၄.၉၈)ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence(၇)လုံးနှင့်Club House Building(၁)လုံးတည်ဆောက်၍ငှားရမ်းခြင်းဝန်ဆောင်မှု လုပ်ငန်းအား လုပ်ကိုင်ဆောင်ရွက်ခွင့်အတွက် အဆိုပြုချက် တင်ပြလာခြင်းအပေါ် အဖွဲ့ဝင်များနှင့်

ဌာနများ မှ ကြိုတင်စိစစ်ချက်အရ လိုအပ်ချက်များ၊ ပြင်ဆင်ဖြည့်စွက်ရန်ကိစ္စများ၊ လုပ်ထုံးလုပ်နည်းနှင့် မညီညွတ်သည့်ကိစ္စများကို ဆွေးနွေးနိုင်ပါရန် တင်ပြအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(မြစန္ဒာ၊ ညွှန်ကြားရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

**Thu Kha Yadanar Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊အမှတ်(၂၉)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံရှိ မြေ(၄.၉၈)ဧက တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံး နှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း လုပ်ကိုင်ဆောင်ရွက်ခွင့် နှင့် စပ်လျဉ်းသည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Thu Kha Yadanar Co., Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးသောင်းထိုက်မင်း |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - B.O.Tစနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ် (၁၄)ထပ်[illegible] အခန်း (၇၃၃) ခန်း ပါ Residence (၇) လုံး နှင့် Cl[illegible] House Building(၁)လုံးတည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း<br><br>မြေပိုင်ရှင် | - ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့န[illegible] မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂွန်းအုပ်စုသိုလှောင်[illegible] မြေ(၄.၉၈)ဧက<br>- ဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေး ဦးစီးဌာနပိုင် |
| ၅။ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု**<br>ငွေပမာဏ<br>စက်ပစ္စည်းတန်ဖိုး<br>အဆောက်အအုံများ<br>လုပ်ငန်းသုံးပစ္စည်းများ<br>မြေအသုံးချခွင့်ပေးငွေ<br>ဒီဇိုင်းခ<br>မော်တော်ယာဉ်<br>Land Scaping | - **ကျပ် ၈၂၈၉၆.၀၀ သန်း(US$ ၅၄.၁၉ သန်း အပါ အဝ**[illegible]<br>- ကျပ် ၁၂၁၂.၄၁ သန်း<br>- ကျပ် ၅၁၈၀.၄၄ သန်း(US$ ၄.၃၂ သန်း အပါအဝင်[illegible]<br>- ကျပ် ၁၅၇၉၀.၈၇ သန်း(US$ ၃၇.၁၂သန်း အပါအဝင်[illegible]<br>- ကျပ် ၇၁၄.၆၆ သန်း(US$ ၀.၅၉ သန်း အပါအဝင်[illegible]<br>- ကျပ် ၁၁၉၅၂.၀၀ သန်း (US$ ၉.၉၆ သန်း အပါအဝင်[illegible]<br>- ကျပ် ၂၄၇၂.၀၀ သန်း(US$ ၂.၀၆ သန်း အပါအဝင်[illegible]<br>- ကျပ် ၁၆၄.၄၀ သန်း(US$၀.၁၃၇ သန်း အပါအဝင်[illegible]<br>- ကျပ် ၈၆၄.၀၀ သန်း |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး(၅၀)နှစ်၊ နောက်ထပ် (၁၀)နှစ် (၂)ကြိမ် |
| ၇။ | တည်ဆောက်ရေးကာလ | - ၆ နှစ် |
| ၈။ | ပဏာမစူးစမ်းလေ့လာမှု ကာလ | - (၆) လ |
| ၉။ | မြေငှားရမ်းခနှုန်းထား | - နှစ်စဉ်ငှားရမ်းခအဖြစ် တစ်စတုရန်းမီတာလျှင် အမေရိက[illegible] ဒေါ်လာ ၁၅ နှုန်းဖြင့် စုစုပေါင်း ကြမ်းခင်းဧရိယာ၏ (၆၅[illegible] အပေါ် ပေးချေရမည် ဖြစ်ပါသည်။ |

<table>
<tr><td></td><td>မြေငှားရမ်းမှု ပရီမီယံကြေး</td><td>- တစ်ဧကလျှင် အမေရိကန်ဒေါ်လာ ၂.၀၀ သန်း နှုန်းဖြင့်<br>(၄.၉၈)ဧကအတွက် ကျသင့်ငွေမှာ အမေရိကန်ဒေါ်လာ ၉.<br>သန်း ဖြစ်ပါသည်။</td></tr>
<tr><td>၁၀။</td><td>ဝန်ဆောင်မှု(၆)နှစ်မြောက်</td><td>
<table>
<tr><th>Particulars</th><th>Gross Floor Area (sq.m)</th><th>Net Floor Area (sq.m)</th><th>Lease Rate (Kyats)</th><th>In come (yea</th></tr>
<tr><td>Phase I</td><td></td><td></td><td></td><td></td></tr>
<tr><td>2-Residence</td><td>၂၇၁၉၀</td><td>၁၇၆၇၃.၅၀</td><td>၂၆၅,၀၀၀</td><td>၄,၆၈၃,၄၇၇,၅</td></tr>
<tr><td>Phase II</td><td></td><td></td><td></td><td></td></tr>
<tr><td>5-Residence</td><td>၆၇၉၈၀</td><td>၄၄၁၈၇.၀၀</td><td>၃၂၀,၀၀၀</td><td>၁၄,၁၃၉,၈၄၀,၀</td></tr>
</table>
</td></tr>
<tr><td>၁၁။</td><td>ဝင်ငွေ (၆ နှစ်မြောက်)</td><td>- ကျပ် ၁၉၇၉၅.၃၆ သန်း</td></tr>
<tr><td>၁၂။</td><td>အသားတင်အမြတ်<br>(၆ နှစ်မြောက်)</td><td>- ကျပ် ၉၃၅၃.၉၉ သန်း</td></tr>
<tr><td>၁၃။</td><td>နိုင်ငံတော်မှရရှိမည့်<br>အကျိုးအမြတ် (၆ နှစ်မြောက်)<br>- ဝင်ငွေခွန်<br>- ကုန်သွယ်လုပ်ငန်းခွန်<br>- အရင်းကြေကာလ<br>- အရင်းအနှီးအပေါ်<br>အကျိုးအမြတ်<br>ပြန်ပေါ်နှုန်း(IRR)</td><td><br><br>- ကျပ် ၃၁၁၇.၉၉ သန်း<br>- ကျပ် ၉၈၉.၇၆ သန်း<br>- ၄ နှစ် ၁၁ လ<br>- ၁၇.၀၃ %</td></tr>
<tr><td>၁၄။</td><td>လျှပ်စစ်ဓါတ်အားသုံးစွဲမှု</td><td>- ၁၀၀၀ KVA</td></tr>
<tr><td>၁၅။</td><td>ဝန်ထမ်းအင်အား<br>ပြည်တွင်း<br><br><br>ပြည်ပ</td><td>- ၃၇ ဦး<br>- ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျ<br>၁၁၀၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာ မှာ ကျပ် ၃၅၀၀<br>ဖြစ်ပါသည်။<br>- မရှိပါ။</td></tr>
<tr><td>၁၆။</td><td>ငွေကြေးအထောက်အထား</td><td>- ကျပ်ငွေ အထောက်အထားအဖြစ် Thu Kha Yadan<br>Co., Ltd. အမည်ဖြင့် KBZ ဘဏ်၌ (၉-၂-၂၀၁၆)နေ့စွဲ<br>ငွေလက်ကျန် ကျပ် ၂၁,၂၉၄၂,၄၅၀ ရှိကြောင်းတင်ပြထား<br>သည်။</td></tr>
</table>

<table>
<tr><td>၁၇။</td><td>အခြားတင်ပြချက်များ</td><td>(က) Thu Kha Yadanar Co., Ltd. မှ ချေးငွေ ကျပ်<br>ဘီလီယံ အား KBZ Bank မှ ချေးယူမည်ဖြစ်ကြော<br>တင်ပြထားပါသည်။<br>(ခ) Car Parking ၈၈၀ စီး ထားရှိနိုင်မည် ဖြစ်ကြော<br>တင်ပြထားပါသည်။<br>(ဂ) ပြည်ထောင်စုရှေ့နေချုပ်ရုံးသဘောထားမှတ်ချက်နှင့်အ<br>ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)တင်ပြထားပါသည်။</td></tr>
<tr><td>၁၈။</td><td>ကော်မရှင် ရုံးအဖွဲ့မှ<br>စိစစ်တင်ပြချက်</td><td>(က) ဝင်ငွေ၊ နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်<br>အရင်းအနှီးပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) တို့<br>ကုမ္ပဏီမှ တင်ပြချက်အရ ဖော်ပြထားခြင်း သာဖြစ်ပါသ<br>(ခ) ပြည်ထောင်စုရှေ့နေချုပ်ရုံးသဘောထားမှတ်ချက်နှင့်အ<br>ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)အား စိစစ်<br>လိုအပ်ချက်ရှိပါက ပြင်ဆင်တင်ပြရန်လိုအပ်ပါသည်။<br>(ဂ) နိုင်ငံခြားငွေ အထောက်အထား တင်ပြထားခြင်း မရှိပါ။<br>(ဃ) Thu Kha Yadanar Co., Ltd. မှ ဆောင်ရွက်မ<br>လုပ်ငန်း အမျိုးအစားများအနက် စီးပွားရေးဆိုင်<br>တွက်ချက်မှုတွင် ဟိုတယ်လုပ်ငန်းအတွက် ထည့်သွ<br>တွက်ချက်ထားခြင်း မရှိပါ။<br>(င) ပြည်ပမှ အောက်ဖော်ပြပါ မော်တော်ယာဉ်မျ<br>တင်သွင်းလိုကြောင်း တင်ပြထားပါသည်-<br>
<table>
<tr><th>စဉ်</th><th>အမျိုးအစား</th><th>စီးရေ</th></tr>
<tr><td>(၁)</td><td>Toyota Lite Ace<br>(Model 2012-2016, 1800 CC</td><td>၂</td></tr>
<tr><td>(၂)</td><td>Toyota Alphard</td><td>၂</td></tr>
<tr><td>(၃)</td><td>Toyota Land Cruiser</td><td>၂</td></tr>
</table>
(ဃ) ပြည်ပမှ တင်သွင်းလိုသည့် မော်တော်ယာဉ်များအ<br>အခွန်အကောက်ပေးဆောင်၍ တင်သွင်းရမည်ဖြစ်ပါသ</td></tr>
<tr><td>၁၉။</td><td>သဘောထားမှတ်ချက်တောင်း<br>ခံမည့် ဌာနများ</td><td>- ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ ပတ်ဝန်းကျင် ထိန်းသိ<br>ရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနနှင့် မြန်မာနိုင်<br>အင်ဂျင်နီယာအသင်းတို့ထံ သဘောထား တောင်းခံမ<br>ဖြစ်ပါသည်။</td></tr>
</table>

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇
☎ -၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/ မ-၁၅၃၄ / ၂၀၁၆( ၂၂၈ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီ လ ၁၇ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

အကြောင်းအရာ ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ Thu Kha Yadanar Co.; Ltd. ၏ (၁၀-၂-၂၀၁၆) ရက်စွဲ ပါ တင်ပြစာ

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့နယ်ရှိ နိုင်ငံတော်ကာကွယ်ရေးတက္ကသိုလ် (ဝင်းဟောင်း) နေရာ နှင့် အမှတ်(၁)မော်တော်ယာဉ်တပ်ရင်း(နေရာဟောင်း)ရှိ စီမံကိန်းများအတွက် အစားထိုးမြေနေရာ ရရှိထားပြီးဖြစ်သော Thu Kha Yadanar Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂျွန်းအုပ်စု သိုလှောင်ရုံရှိ မြေ(၄.၉၈)ဧက တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးသောင်းထိုက်မင်းမှ ရည်ညွှန်းပါ စာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပါ အဆိုပြုချက် တင်ပြလာခြင်းအပေါ် သဘောထား မှတ်ချက်အား စာလက်ခံ ရရှိသည့်နေ့မှစ၍ **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးပါရန် အဆိုပြုချက် တစ်စုံ နှင့်အတူ Layout Plan, Conceptual Drawing, Bill of Quantities, Engineering Drawing တို့အား ပူးတွဲပေးပို့လျက် ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်။

၃။ Thu Kha Yadanar Co., Ltd. နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဦးသန်းဝင်းအောင်၊ ဖုန်းနံပါတ်၊ ၀၉-၄၃၀၆၄၅၃၇ ဖြစ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

Thu Kha Yadanar Co., Ltd.

ရုံးလက်ခံ / မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

**အဆိုပြုချက်စိစစ်ရေးအဖွဲ့**

ဖက်(စ်) ၀၁-၆၅၈၁၃၇ — စာအမှတ်၊ ရက- ၄/ မ-၁၅၃၄/၂၀၁၆( ၂၂၆ )

☎ -၀၁-၆၅၈၁၂၉ — ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီ လ ၁၆ ရက်

သို့

အဖွဲ့ခေါင်းဆောင်

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

One Stop Service အဖွဲ့

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ Thu Kha Yadanar Co., Ltd. ၏ (၁၀-၂-၂၀၁၆) ရက်စွဲ ပါ တင်ပြစာ

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့နယ်ရှိ နိုင်ငံတော်ကာကွယ်ရေးတက္ကသိုလ် (ဝင်းဟောင်း) နေရာ နှင့် အမှတ်(၁)မော်တော်ယာဥ်တပ်ရင်း(နေရာဟောင်း)ရှိ စီမံကိန်းများအတွက် အစားထိုး မြေနေရာ ရရှိထားပြီးဖြစ်သော Thu Kha Yadanar Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီးဌာန ပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂွန်းအုပ်စု သိုလှောင်ရုံရှိ မြေ(၄.၉၈)ဧက တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးသောင်းထိုက်မင်းမှ ရည်ညွှန်းပါ စာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ အဆိုပြုချက်ပါ လုပ်ငန်းဆောင်ရွက်မည့် နေရာတွင် အထပ်မြင့် အဆောက်အဦများ တည်ဆောက်ခြင်းအတွက် သဘာဝ ပတ်ဝန်းကျင် ထိခိုက်မှု ရှိ-မရှိ နှင့် လုပ်ငန်းဆောင်ရွက်ရန် သင့်-မသင့် စသည့်အချက်များအပေါ် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီး ဌာန၏ သဘောထား မှတ်ချက်အား **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးနိုင်ပါရန် နှင့် အဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ ဦးသန်းဝင်းအောင်၊ ဖုန်းနံပါတ်၊ ၀၉-၄၃၀၆၄၅၃၇ သို့ ဆက်သွယ် ဆောင်ရွက်နိုင်ပါရန် အဆိုပြုချက်(တစ်)စောင် ပူးတွဲ ပေးပို့လျက် ညှိနှိုင်း မေတ္တာရပ်ခံ အပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)

(ဆန်းမြင့်၊ဒုတိယညွှန်ကြားရေးမှူးချုပ်)

ThukhayadanarForestInv3

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

Thu Kha Yadanar Co., Ltd.

ရုံးလက်ခံ / မျှောစာတွဲ

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇ စာအမှတ်၊ ရက- ၄/ မ-၁၅၃၄ / ၂၀၁၆( ၂၂၇ )
☎ -၀၁-၆၅၈၁၂၉ ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီ လ ၁၇ ရက်

သို့

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ (၁) နိုင်ငံတော်သမ္မတရုံး၏ (၂၀-၄-၂၀၁၁) ရက်စွဲပါ အမိန့်ကြော်ငြာစ အမှတ်၊ ၃၃/၂၀၁၁

(၂) Thu Kha Yadanar Co., Ltd. ၏(၁၀-၂-၂၀၁၆) ရက်စွဲပါ တင်ပြ စာ

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့နယ်ရှိ နိုင်ငံတော်ကာကွယ်ရေးတက္ကသိုလ် (ဝင်းဟောင်း နေရာ နှင့် အမှတ်(၁)မော်တော်ယာဥ်တပ်ရင်း(နေရာဟောင်း)ရှိ စီမံကိန်းများအတွက် အစားထို မြေနေရာ ရရှိထားပြီးဖြစ်သော Thu Kha Yadanar Co., Ltd. မှ ဆောက်လုပ်ရေး ဝန်ကြီး ဌာ ပိုင်၊ ရန်ကုန်တိုင်း ဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂျွန်းအုပ် သိုလှောင်ရုံရှိ မြေ (၄.၉၈)ဧက တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ အထပ်(၁၄)ထပ်နှ အခန်း(၇၃၃)ခန်းပါ Residence (၇)လုံးနှင့် Club House Building(၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းအား လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှ ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးသောင်းထိုက်မင်းမှ ရည်ညွှန်းပါ စာဖြ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇) ပုဒ်မ(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို ကော်မရှင်က စိစစ်ရာတွင် သက်ဆိုင်ရာ ပြည်နယ် / တိုင်းဒေသကြီးအစိုးရတို့၏ သဘောထားကို ရယူရန်လိုအပ်ပါသည်။

၃။ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ်ဆောင်ရွက်ခွင့်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ တိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရတို့၏ ထောက်ခံချက်ကို အထူးအလေးထားစဥ်းစားပါသဖြင့် ဝန်ကြီးချုပ် ကိုယ်တိုင်စိစစ် လက်မှတ်ရေးထိုးပြီး ထောက်ခံပေးပါရန် နိုင်ငံတော် သမ္မတရုံး၏ ရည်ညွှန်းချက်(၁)ပါ စာပိုဒ် ၃(စ) တွင် ဖော်ပြထားပါသည်။

၄။ ကော်မရှင်အနေဖြင့် လုပ်ငန်းအဆိုပြုလွှာများကို အမြန်ဆုံး စိစစ်ပေးရန် သမ္မတရုံးမှ ညွှန်ကြားထားပါသဖြင့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ တစ်ဖက်ဖော်ပြပါ သဘောထား မှတ်ချက်အား **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးနိုင်ပါရန် ညှိနှိုင်း မေတ္တာရပ်ခံအပ် ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ စီမံကိန်းကို ထိခိုက်ခြင်း ရှိ/မရှိ။

(ခ) မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက် အတွက် အထောက်အကူ ဖြစ်/မဖြစ်။

(ဂ) ဖော်ပြပါ မြေနေရာတွင် လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/မရှိ။

(ဃ) လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ ဟုတ်-မဟုတ်။

(င) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သုံးသပ် အကြံပြုချက်။

၅။ အထက်ဖော်ပြပါ အပိုဒ်(၃)ပါ အချက်များအပြင် အဆိုပြုလွှာပါ Master Plan Conceptual Drawing, Bill of Quantities, Building Cost နှင့် နည်းပညာရပ်ပိုင်းဆိုင်ရ ရှုထောင့်များကိုပါ ထည့်သွင်း စဉ်းစား၍ သဘောထားမှတ်ချက်များ ပြန်ကြားပေးနိုင်ပါရန်နှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ဦးသန်းဝင်းအောင်၊ ဖုန်းနံပါတ်၊ ၀၉-၄၃၀၆၄၅၃၇ သို့ ဆက်သွယ ဆောင်ရွက်နိုင်ပါရန် အဆိုပြုချက်(တစ်) စောင်အား ပူးတွဲပေးပို့လျက် ညှိနှိုင်း မေတ္တာရပ်ခံအပ် သည်။

ဥက္ကဋ္ဌ(ကိုယ်စား
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး

မိတ္တူကို

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ(အဆိုပြုလွှာ ပူးတွဲ ၁ စောင်)

အထပ်မြင့် အဆောက်အအုံ တည်ဆောက်ရေးစီမံကိန်းများ ကြီးကြပ်စစ်ဆေးရေး ပညာရှင် အဖွဲ့(CQHP) (အဆိုပြုလွှာပူးတွဲ ၁ စောင်)

အထပ်မြင့် အဆောက်အအုံ ဆောက်လုပ်မှုဆိုင်ရာ စံချိန်စံညွှန်း စစ်ဆေးရေးနှင့် ကြီးကြပ်ရေးအဖွဲ့(HIC)

Thu Kha Yadanar Co., Ltd.

ရုံးလက်ခံ / မျှောစာတွဲ

ကန့်သတ်